ဟာဇရသ် မောင်လာနာ အိုမရ် စွာဟစ်ဗ် ဂျာမေအီ
ဆရာဦးမောင်မောင်_ထန်းကုန်း ဟောကြားအပ်သော

# နေကာဟ်၏ထွတ်မြတ်မှု
# နှင့်
# ခိုင်မြဲသောအိမ်ထောင်ရေး

စီစဉ်သူ
မွတ်ဖ်သီ အိုင်နွတ်ဒီးန် (ချောက်)
နဒ်ဝီ၊ အဗ္ဗလ်ဟာစနီ

﷽

# ဟာဇရသ် မောင်လာနာ အိုမရ် စွာဟစ်ဗ် ဂျာမေအီ

# ဆရာဦးမောင်မောင်_ထန်းကုန်း

ဆရာ ဦးမောင်မောင်ကို အဖ ဦးအဗ်ဒွလ္လာဟ်၊ အမိဒေါ်သန်းရွှေတို့က ၁၉၅၂ ခုနှစ်၊ ဧပြီလ ၃ ရက်နေ့တွင် စစ်ကိုင်းတိုင်းဒေသကြီး ကန့်ဘလူမြို့နယ် ထန်းကုန်း ကျေးရွာတွင် ဖွားမြင်ခဲ့သည်။ ငယ်စဉ်က ထန်းကုန်းကျေးရွာရှိ အလယ်တန်း ကျောင်းတွင် ၁၉၆၇ ခုနှစ်တိုင် အခြေခံပညာကို သင်ယူဆည်းပူးခဲ့သည်။ ထို့နောက် ခေတ်ပညာနှင့် အစ္စလာမ့်စာပေများကို တွဲဖက်သင်ယူဆည်းပူးရန် စစ်ကိုင်းတိုင်း ဒေသကြီး ကန့်ဘလူမြို့ရှိ "ဂျာမေအသွလ်အိုလမာ_မြန်မာအရဗီသိပ္ပံကျောင်း" သို့ အေဒီ ၁၉၆၁ ခုနှစ်၌ ဝင်ရောက်ခဲ့သည်။ ယင်းကျောင်း၌ သာသနာ့ပညာ၏အရင်း အမြစ်ဖြစ်သော အရဗီဘာသာကျမ်းရင်းများကို ထင်ရှားကျော်စောသော ဆရာ သခင်ကြီးများထံမှ သင်ယူဆည်းပူးခွင့်ရရှိခဲ့သည်။ ဆရာဦးမောင်မောင်၏ ကျေးဇူး ရှင်ဆရာသခင်ကြီးများမှာ.....

အလ်ဟာဂျ် မောင်လနာ ဟာရူးန် စွာဟစ်ဗ် (ခ) ဆရာကြီး လှ ၊

အလ်ဟာဂျ် မောင်လာနာ ယူစွဖ် စွာဟစ်ဗ် (ခ) ဆရာကြီး ဖုံ ၊

အလ်ဟာဂျ် မောင်လာနာ သွာဟစ်ရ် စွာဟစ်ဗ် ၊

အလ်ဟာဂျ် မောင်လာနာ အဗ်ဒွလ်ဂဖူးရ် စွာဟစ်ဗ် ၊

အလ်ဟာဂျ် မောင်လာနာ အစ်မာအီးလ် (ခ) ဦးခင်မောင် စွာဟစ်ဗ် ၊

မောင်လာနာ စွာလေးဟ် စွာဟစ်ဗ် ၊

မောင်လာနာ ရဟ်မသွလ်လာဟ် စွာဟစ်ဗ် တို့ဖြစ်သည်။

ဘိုခါရီကျမ်းကို အလ်ဟာဂျ် မောင်လနာ ဟာရူးန် စွာဟစ်ဗ် (ခ) ဆရာကြီး လှထံ အစအဆုံး ဖတ်ခွင့်ရရှိခဲ့သည်။ ဆရာဦးမောင်မောင်သည် ဆရာကြီး 'လှ'၏ တပည့်များအနက် ထူးချွန်ထက်မြက်သော ကျောင်းသားတစ်ဦးအဖြစ် ထင်ရှား ကျော်ကြားခဲ့သည်။ ဆရာသည် အစ္စလာမ့် စာပေများအပြင် ခေတ်ပညာရပ်များ ကိုလည်း ဖွဲနပဲကြီးစွာ အချိန်ထုတ်သင်ယူဆည်းပူးခဲ့သည်။ ထို့နောက် အဆိုပါ "ဂျာမေအသွလ်အိုလမာ_မြန်မာအရဗီသိပ္ပံကျောင်း"ကြီးမှ အာလင်မ်စနဒ်ဘွဲ့ကို အေဒီ ၁၉၇၀ ခုနှစ်တွင် ရရှိခဲ့သည်။ ဆရာဦးမောင်မောင်သည် ဆရာကြီးလှထံမှ

တစ်ဆင့် ဟာဇရသ် မောင်လာနာ မွတ်ဖ်သီ ရှဖီးရ်အဟ်မဒ် စွာဟစ်ဗ် ﷺ သခင်၏ ဟာဒီးဆ်စနဒ်အစဉ်အဆက်ကို ရရှိထားခြင်းဖြစ်သည်။

စနဒ်ဘွဲ့ရရှိပြီးနောက် သင်ကြားရေးနယ်ပယ်၌ ကျောင်းဆရာတစ်ဦးအဖြစ် သာသနာ့အကျိုးကို သယ်ပိုးဆောင်ရွက်ခဲ့သည်။ အေဒီ ၁၉၇၁ ခုနှစ်တွင် မုံရွာမြို့၊ မြို့မဗဟိ စာသင်ကျောင်းတွင် ကျောင်းဆရာအဖြစ် တစ်နှစ်တာ တာဝန်ထမ်းဆောင်ခဲ့သည်။ တဖန် ဒအ်ဝသ်သဗ်လီးဂ် (ခ) သာသနာပြုလုပ်ငန်းတွင် အချိန်ပေးရန် အေဒီ ၁၉၇၁ ခုနှစ်တွင် ပုံးအိုး အစ်ဂျ်သေမအ်မှ ကျစ်လ္လာထွက်ခဲ့သည်။ ယနေ့တိုင် သဗ်လီးဂ်လုပ်ငန်းတွင် ရက်တိုရက်ရှည်အချိန်ပေး၍ ပါဝင်နေဆဲဖြစ်သည်။ ဆရာဦးမောင်မောင်သည် ဒအ်ဝသ်သဗ်လီးဂ်လုပ်ငန်းအတွက် မြန်မာနိုင်ငံတွင်သာမက ပြည်ပသို့ပင်ထွက်၍ ကြိုးပမ်းဆောင်ရွက်ခဲ့သည်။ ယင်းလုပ်ငန်းအတွက် အေဒီ ၂၀၁၂ ခုနှစ်တွင် နေဇာမွဒ္ဒီးန်(အိန္ဒိယ)နှင့် ရိုင်ဝါန်(ပါကစ္စတန်) သို့သွားရောက်ပြီး လေးလအချိန် ပေးခဲ့သည်။

ဆရာသည် "သဒ်ရီးစ်"သင်ကြားရေးနှင့် "သဗ်လီးဂ်"ပို့ချရေးအပြင်၊ "သဇ်ကေယဟ်" နလုံးသားသန့်စင်ရေးလုပ်ငန်းကိုလည်း တစိုက်မတ်မတ် ကြိုးပမ်းအားထုတ်လျက်ရှိသည်။ ဘာသာသာသနာရေးအတွက် မြန်မာပြည်တစ်နံတစ်လျားသို့ သွားရောက်ပြီး အစ္စလာမ့်တရားဒေသနာများကိုလည်း ဟောကြားပို့ချပေးနေသူ တစ်ဦးဖြစ်သည်။ ထို့အပြင် လူသားအကျိုးပြု ပရဟိတ လုပ်ငန်းများတွင်လည်း လူဖြူလူမဲ မခွဲခြားဘဲ မတူကွဲပြားလူအများနှင့် အတူယှဉ်တွဲ လုပ်ကိုင် ဆောင်ရွက်နေသူတစ်ဦးဖြစ်သည်။ သို့သာမက နေထိုင်ရာအရပ်ဒေသရှိ အများပြည်သူအကျိုးများကိုလည်း အနစ်နာခံစေတနာအမှန်ဖြင့် တစ်ဘက်တစ်လမ်းမှ လက်လှမ်းမှီသ၍ သယ်ပိုးထမ်းရွက်နေသူ တစ်ဦးဖြစ်သည်။

ဆရာသည် တရားဒေသနာများကို ဟောကြားပို့ချရာတွင် နာမည်ကျော်ကြားလူကြိုက်များပြီး မြန်မာစကားအရာ၌ ထက်မြက်ကြွယ်ဝသော စကားအလှပိုင်ရှင်တစ်ဦးဖြစ်သည်။ အများမွတ်စ်လင်မ်မဆိုထားနှင့် အခြားသောဘာသာဝင်များ၏ နလုံးသားများကို လှုပ်ယမ်းသွားလောက်အောင် ဆရာ၏တရားရေအေး အမြိုက်ဆေးများမှာ စူးရှထက်မြက်လှသည်။ ဆရာသည် အဟောအပြောကောင်းပြီး နာမည်ကျော်ကြားခဲ့သော သဗ်လီးဂ်လုပ်ငန်း၏လူဟောင်းတာဝန်ခံတစ်ဦးဖြစ်သူ" ဟာစံ

ဘိုင်-ရွှေဘို"၏တူတော်မောင်လည်းဖြစ်သည့်အပေါ် တရားဟောအတတ် ပညာကို အမွေဆက်ခံရရှိခဲ့သည်ဟု ဆိုရပေမည်။

ထို့ပြင် မြန်မာစာပေ၏သိမ်မွေ့နက်ရှိုင်းသော သဘောတရားများကို နားလည် တတ်ကျွမ်း ထားသောကြောင့် အထက်မြန်မာပြည် အာလင်မ်ပညာရှင်ကြီးများက ပင် စာပေစိစစ်ရေးလုပ်ငန်း များတွင်ပါဝင်ဆောင်ရွက်ပေးရန် တာဝန်ခံအဖြစ် ခန့် အပ်ခြင်းခံခဲ့ရသူတစ်ဦးဖြစ်သည်။ ယနေ့အချိန်တွင် ဆရာပါဝင်သော စိစစ်ရေးအဖွဲ့ ၏စိစစ်တည်းဖြတ်မှုဖြင့် ထွက်ပေါ်လာသော အစ္စလာမ့်သမိုင်းကျမ်း အတွဲ ၁၊ အတွဲ ၂၊ အတွဲ ၃ တို့မှာ ထင်ရှားသောအသီးအပွင့်များပင်ဖြစ်သည်။ ဆက်လက်ထုတ် ဝေမည့် ကျမ်းစာအုပ်များအတွက်လည်း မအားလပ်သည့်ကြားမှ အပြေးအလွှား ခရီးသွားလာရင်း အချိန်ပေး တာဝန်ထမ်းဆောင်လျက်ရှိသည်။ ထို့အတူ ဆရာသည် အေဒီ ၂၀၀၂ ခုနှစ်မှစတင်၍ ယနေ့တိုင် ကန့်ဘလူမြို့ရှိ "ဂျာမေအာသွလ် အိုလ မာ_မြန်မာအရဗီသိပ္ပံကျောင်း"ကြီး၏လက်အောက်ခံကျောင်းဖြစ်သော "အင်မ်ဒါဒွလ် အိုလူးမ်ကျောင်း_ထန်းကုန်းကျေးရွာ"တွင် စေတနာ့ဝန်ထမ်း-ကျောင်းတာဝန်ခံဆရာ တစ်ဦးအဖြစ်သာသနာ့ အကျိုးသည်ပိုးလျက်ရှိသည်။

စာဖတ်ပရိသတ်တို့လက်ဝယ်ရောက်ရှိနေသော ဤစာအုပ်သည်လည်း အိမ် ထောင်ရှင် မိသားစုတိုင်းကို အစ္စလာမ့်တရားတော်မြတ်နှင့်အညီ နလုံးမူလိုက်နာ ကျင့်သုံးနိုင်ရန် လမ်းညွှန်ပြသထားသော"ဆရာဦးမောင်မောင်_ထန်းကုန်း"၏ ဟော ကြားမိန့်ခြွေချက်များသာဖြစ်သည်။ အိမ်ထောင်ရှင်အမျိုးသားနှင့် အမျိုးသမီးတို့၏ ကျင့်ဝတ်တို့သာမက ခိုင်မြဲသောအိမ်ထောင်ရေးအတွက် မရှိမဖြစ်လိုအပ်သည့် အခြေခံသဘောတရားများနှင့်စပ်လျဉ်း၍ မှုတသောအတွေးအခေါ်များကို လှပ သော စကားလုံးများနှင့် စီခြယ်ဟောကြားထားသော တရာရေအေးအမြိုက်ဆေးများ ပင်ဖြစ်သည်။ အိမ်ထောင်သည်တိုင်းသည် မိမိတို့အိမ်ထောင်ရေးခိုင်မြဲရန်နှင့် သာယာတဲ့သီရိဂေဟာတစ်ခု တည်ဆောက်နိုင်ရန်အလို့ငှာ ဆရာ၏ဟောကြား မိန့်ခြွေချက်များကို အလေးအနက်ထားလိုက်နာကျင့်သုံးရန် လိုအပ်ပေလိမ့်မည်။ အိမ်ထောင်ရှင်များအားလုံးကို လက်တွေ့လိုက်နာ ကျင့်သုံးနိုင်စွမ်း အလ္လာဟ်အရှင် ချီးမြှင့်ပေးသနားတော်မူပါစေ။ အာမီးန်

မိုဟာမ္မဒ် အိုင်နွတ်ဒီးန် (ချောက်)

နဒ်ဝီ၊ အဇ္ဇဟာရီ

بسم الله الرحمن الرحيم

# အလ်ဟာဂ်ျ မောင်လာနာ မွတ်ဖ်သီ ကာရီ မိုဟမ္မဒ် အာစွင်းမ် "နဒ်ဂီ၊ အဗ္ဗလ်ဟာစနီ၊ မဇ္ဇာဟော့ရီ"၏ ရင်တွင်းစကား

လောကဇာတ်ခုံတွင် ကမ္ဘာဦးအစမှယနေ့တိုင် အစ္စလာမ်သာသနာတော်အား အပြင်စည်း၊ အတွင်းစည်းမှ တိုက်ခိုက်မှုများ စိန်ခေါ်မှုများရှိနေခဲ့သည်မှာ ငြင်းမရနိုင်ပါ။ ဖခင်ကြီးအာဒမ်ﷷကို အစ်ဗ်လီးစ်၏ချက်ကျကျတိုက်ခိုက်ခဲ့ခြင်းသမိုင်းကို လေ့လာကြည့်ပါက ဤတိုက်ခိုက်စိန်ခေါ်မှုများသည် ဂျန္နသ်ထဲမှပင် အမြစ်တွယ်၊ သန္ဓေတည်လာခဲ့ရသည်ဟုဆိုရပေမည်။

ခေတ်တွေပြောင်း နှစ်တွေဟောင်းခဲ့ရသော်လည်း ထိုစိန်ခေါ်မှုများမှာ အသွင်သစ်၊အမြင်သစ်၊ ဆန်းသစ်သောစနစ်များဖြင့် နပျိုလျက်ပင်ရှိနေသည်။ တားမြစ်ပင်အား ဖခင်ကြီးအာဒမ်ﷷစားသုံးမိခြင်း၊ နူးဟ်ﷷ၏တရားလမ်းမှန်ပြသခြင်းအပေါ် နဗီကြီး၏အမျိုးသားတို့ဘက်မှ လှောင်ပြောင်သောတုံ့ပြန်မှုများ၊ တမန်တော်မူစာﷷကြုံဆုံခဲ့ရသော ဖစ်ရ်အောင်န်၏ရန်စွယ်နှင့် ဗနီအစ်ရာအီးလ်တို့၏ကျေးဇူးကန်းခြင်းများ ၊ တမန်တော်အီစာﷷအပေါ် ဗနီအစ်ရာအီးလ်တို့၏လုပ်ကြံစွပ်စွဲချက်များ၊ ၂၃ နှစ်တိုင်တိုင် ကျွန်ုပ်တို့၏နဗီကြီး တမန်တော်မြတ်မိုဟမ္မဒ်ﷺနှင့် အဆ်ဟားဗ်တော်တို့ကြုံဆုံခဲ့ရသည့် မက္ကာဟ်နှင့်မဒီနာမှ စိန်ခေါ်သံများ၊ ကာဖစ်ရ် မွတ်ရှ်ရစ်က်တို့၏ခါးသီးသော ကိုယ်ထိလက်ရောက်စော်ကားမှုများ၊ မိုနာဖစ်က်တို့ သစ္စာဖေါက်ခဲ့သောနေ့ရက်များ၊ ခလီဖ္ဖာကြီး(၄)ပါးအုပ်ချုပ်စဉ် နှစ်(၃၀)ကျော်အတွင်းမှ ဇကားသ်ကို ငြင်းပယ်သူများ၊ မုရ်သဒ်များ၊ လူမျိုးရေးမှိုင်းတိုက်မှုများ၊ သာသနာရေးတွင် လိုတိုးပိုလျော့လုပ်မှုများ။ ဗနူအိုမိုင်ယဟ်အုပ်ချုပ်စဉ် နှစ်ပေါင်း(၉၁) နှစ်ခန့်မှ ဦးနှောက်ဂါဒီများ၊ အဗ္ဗါစီယဟ်မင်းဆက်တို့ အုပ်ချုပ်ခဲ့သည့် နှစ်ပေါင်း (၅၀၀)ကျော်မှလူမျိုးကြီးဂါဒီများ၊ ဖီလော်ဆော်ဖီများ၊ တာတာရီပြဿနာများ၊ အော်တိုမန်အင်ပါယာရှိနေစဉ် ရင်ဆိုင်ခဲ့ရသော အတွေးအခေါ်စစ်ဆင်ရေးများ၊ အရှေ့တိုင်းဂါဒီတို့၏ထိုးနှက်ချက်များ၊ အိန္ဒိယနိုင်ငံအား မွတ်စ်လင်မ်တို့အုပ်ချုပ်စဉ် နှစ်ပေါင်း (၇၀၀) ကျော်အတွင်း ကြုံဆုံခဲ့ရသည့်ဖိသ်နာများ၊ အင်္ဂလိပ်အုပ်ချုပ်စဉ် ယင်းတို့၏ချယ်လှယ်မှုများ၊ ၎င်းတို့ ပြန်ချိန်ထားရစ်ခဲ့သည့်အမွေဆိုးများ စသည်တို့သည် ကျွန်ုပ်တို့လက်တစ်ကမ်းရှိ စိန်ခေါ်မှု မှတ်တမ်းများပင်ဖြစ်သည်။

စိန်ခေါ်မှုများ၊ လေးပြင်းမုန်တိုင်းများ မည်သို့ပင်တိုက်ခတ်ခဲ့ပါစေ ထိုစိန်ခေါ်မှုများကို အဖြေပေးရန်၊ မုန်တိုင်းများကို ရင်ဆိုင်အန်တုရန် ခေတ်တိုင်းတွင် မြင့်မြတ်တော်မူသောအရှင်မြတ်က နဗီတမန်တော်မြတ်ﷺ၏စစ်မှန်သော အရိုက်အရာ ဆက်ခံသည့် ခလီဖှာကြီးများနှင့် အမွေစားအမွေခံများကို ပေါ်ထွန်းစေတော်မူခဲ့သည်။

ကျွန်ုပ်တို့နိုင်ငံတွင်လည်း သာသနာတော်အတွက် တစ်ခေတ်တစ်မျိုး မရိုးရသည့် ပြဿနာများ၊ စိန်ခေါ်မှုများရှိနေခဲ့သည်။ ထိုပြဿနာများအနက် ပူပူနွေးနွေးပြဿနာတစ်ခုမှာ အမျိုးသမီး တစ်ဦး၏အခွင့်အရေးဆုံးရှုံးနေရခြင်းဟူသော ခေါင်းစဉ်ဖြင့် အစ္စလာမ့်သွလားက်စနစ်ကို ပျက်ရယ်ပြုခြင်း၊ ပြောင်လှောင်ခြင်းနှင့်၊ စောဒကတက်ခြင်းများဖြစ်လာခဲ့ရသည်။ မြန်မာမွတ်စ်လင်မ်များကပင် စင်မြင့်ပေါ်မှ မီဒီယာအားကိုးဖြင့် သာဂကကြီးဟဇရသ်အိုမရ်ﷺသခင်ကြီးကို စော်ကားသည် အထိဖြစ်ခဲ့သည်။ ထိုစော်ကားမှုကြီးကို online/offlineမှ အချို့မွတ်စ်လင်မ်တို့က ဩဘာလည်း ပေးခဲ့ကြသေးသည်။ ဟဇရသ်အိုမရ်ﷺသခင်အား မြန်မာမွတ်စ်လင်မ်တို့ သစ္စာဖောက်ခဲ့သည့် သမိုင်းဆိုးတစ်ခု ကျွန်ုပ်တို့မြန်မာအစ္စလာမ့်သမိုင်းတွင် စွန်းထင်းခဲ့ရသည်။

ယင်းကဲ့သို့သစ္စာဖောက်မှုများ၊ စောဒကများကို ပြန်လည်ချေပရန် မြန်မာပြည်တဝှမ်းလုံးရှိ အမှန်တရားဘက်တော်သား အာလင်မ်ကြီးများက အွမ္မသ်ထုတစ်ရပ်လုံးအမှန်တရားသိသွားစေရန် ရည်သန်ကာ တိုင်းနှင့်ပြည်နယ်အနှံ့တွင် "အစ္စလာမ်အိမ်ထောင်ရေးနှင့်ကွာရှင်းပြတ်စဲခြင်းဆိုင်ရာ" အသိပညာပေးဟောပြောပွဲများ၊ တစ်ညီတစ်ညွတ်တည်းသဘောထားထုတ်ပြန်မှုများ ပြုလုပ်ခဲ့ပါသည်။ မန္တလေးတိုင်းမှသည် ရန်ကုန်တိုင်းဆီသို့၊ ကချင်ပြည်နယ်မှသည် မွန်ပြည်နယ်ဆီသို့ စုစုပေါင်း (၅) ပွဲခန့် အသိပညာပေးဟောပြောပွဲများကျင်းပဖြစ်ခဲ့သည်။

စာရေးသူသည် ကျင်းပခဲ့သမျှဟောပြောပွဲတိုင်းတွင် ပါဝင်ခွင့်ရခဲ့ပါသည်။ ထိုဟောပြောပွဲများတွင် ဆရာသခင်ကြီးတို့၏ ဟောပြောခဲ့သမျှ ရွှေစကားများကိုလည်း စလယ်ဆုံး နားထောင်ခွင့်ရခဲ့ပါသည်။ ရသာစုံလင် ၊ရောင်သွေးစုံလင် အသိတရားများ၊ ရှောင်ရန်ဆောင်ရန်များ၊ ကျင့်ရန်ကြဉ်ရန်များအား ဆရာသခင်ကြီးများမှ တာဂန်သိသိသစ္စာရှိရှိဖြင့် အွမ္မသ်ကိုချီးမြှင့်ပေးခဲ့ပါသည်။ ထိုဆရာသခင်ကြီးများအားလုံး၏သက်တမ်းကို ကောင်းသောကျန်းမာရေးနှင့်တကွ အဓွန့်ရှည်စေတော်မူပါဟု အလ္လာဟ်အရှင်မြတ်ထံ တောင်းဆုပန်ပါသည်။

ထိုဟောကြားချက်များအနက် ကျေးဇူးရှင်ဆရာသခင် ဟဇရသ် မောင်လာနာ အိုမရ် ဂျာမေအီ (ခ) ဆရာဦးမောင်မောင် (ထန်းကုန်း) ၏ဟောပြောချက်များမှာ ပရိသတ်များရှေ့သို့ ရောက်ရှိလာချေပြီ။ ဆရာဦးမောင်မောင်(ထန်းကုန်း)၏ ဟောပြောချက်များမှာ စိတ်ဘဝင်နှလုံးကို သိမ်းယူနိုင်ခဲ့သည်။ အိမ်ထောင်ရေးသုခ ဆိတ်သုဉ်းနေရသော ဇနီးမောင်နှံများအတွက် တရားတော်ကပေးသော အစ္စလာမ့်အိမ်ထောင်ရေးနီတိများ၊ ချစ်နဗီ၏သာယာလှပသော အိမ်ထောင်မှုဘဝမှ ပုံရိပ်များကို ကုရ်အာန်၊ ဟဒီးဆ်နှင့် ခေတ်အဆက်ဆက်ရှိသာသနာ့ပညာရှင်ကြီးတို့၏ အဆိုအမိန့်များကိုကိုးကားပြီး ဟောကြားတင်ပြချက်များမှာ သမိုင်းမှတ်တိုင်တစ်ခု ဖြစ်ခဲ့ရသည်။ သာယာနာပျော်ဘွယ်ကောင်းသော ဆရာသခင်၏သံချိုအေး၊ နှလုံးဘဝင်ခိုက်စေသောတင်ပြပုံ၊ ဟောပြောချက်အပြီး နှလုံးသားရင်ပြင်တွင်ချန်ရစ်ခဲ့သော စိတ်ခံစားမှုများမှာ ဇနီးမောင်နှံတို့ အထီးမကျန်စေဖို့ နည်းမှန်များသာဖြစ်နေပါသည်။ ဆရာသခင်တင်ပြခဲ့သမျှကို နှလုံးသွင်းပြီး လက်တွေ့ဘဝတွင် အလှဆင်လိုက်မည်ဆိုလျှင်ပင် ကျွန်ုပ်တို့ယနေ့တွေ့ကြုံနေသမျှ အိမ်ထောင်ရေး အနိဋ္ဌာရုံအများစုမှာ ပျက်သုဉ်းသွားနိုင်ပါသည်။

ဆရာသခင်၏ နှုတ်မှမိန့်ခြွေခဲ့သော တရားရေအေး အမြိုက်ဆေးများကို ကျွန်ုပ်၏ချစ်မိတ်ဆွေ မွတ်ဖ်သီ မောင်လနာ အိုင်နွတ်ဒီးန်း "နဒ်ဂီ၊အဗ္ဗလ်ဟာစနီ" (ခ) ဆရာဇော်မင်းဦး(ချောက်)က ဒုက္ခခံ၊ အနစ်နာခံပြီး ယခုကဲ့သို့ ကျမ်းငယ်အသွင်ပြောင်းလဲကာ အွမ္မသ်ကို လက်ဆောင်ပေးခြင်းမှာလည်း ဒုတိယသမိုင်းမှတ်တိုင်တစ်ခုဟု ဆိုချင်ပါသည်။

စာရှုသူများအနေဖြင့် ဤမိန့်ခြွေချက်များကို ဂဃနဏလေ့လာပြီးလျှင် မိမိတို့အိမ်ထောင်ရေးရှိ ကွက်လပ်များကို ဖြည့်ဆည်းသင့်ပါသည်။ မိမိတို့အိမ်ထောင်ရေးဘဝကို အချစ်များဖြင့် ခြံရံ၊ မေတ္တာတရားဖြင့် လမ်းခင်းပြီး၊ အာခိရသ်ခရီးဆီသို့ ရွှေလက်တွဲခိုင်မြဲစွာ ချီတက်နိုင်ပါစေဟုလည်း ရင်နှင့်အမျှဆန္ဒပြု ဆုမွန်ချွေပါရစေ။

အခမ်းအနားစီစဉ်ခဲ့သည့် ကျေးဇူးရှင်များ၊ ဟောကြားပေးခဲ့သည့် ဆရာသခင်ကြီးများ၊ ဆရာဦးမောင်မောင်-ထန်းကုန်းနှင့် ဒုက္ခခံစီစဉ်ပေးခဲ့သော ဆရာမွတ်ဖ်သီ အိုင်နွတ်ဒီးန်း "နဒ်ဂီ၊ အဗ္ဗလ်ဟာစနီ" (ချောက်) တို့ကို အလ္လာဟ်အရှင်မြတ် ကောင်းသောအစားများ ချီးမြှင့်ပေးသနားတော်မူပါစေ။ အခမ်းအနားများတွင် တတ်ရောက်ပါဝင်သူများနှင့် ဤစာအုပ်အား လေ့လာဖတ်ရှု လိုက်နာကျင့်သုံးသူများ အားလုံးကို

လည်း အလ္လာဟ်အရှင်မြတ် ကောင်းသောစားများ ချီးမြှင့်ပေးသနားတော်မူပါစေ။ ဤကျမ်းငယ်ကိုလည်း ကျွန်ုပ်တို့အိမ်ထောင်ရေးအတွက် မင်္ဂလာအပေါင်း ဆောင်ကြဉ်းပေးမည့် ကျမ်းအဖြစ်လက်ခံပေးသနားတော်မူပါစေ။

**မွတ်ဖ်သီ မိုဟမ္မဒ် အာစွင်းမ်**

**"နဒ်ဝီ၊ အဗ္ဗလ်ဟာစနီ၊ မဇ္ဇာဟေ့ရီ"**

**ဟစ်ဂျ်ရီ-၁၄၄၀ ခု၊ ဂျုမာဒလ်အူလာ(၂၆)ရက်၊**

**ခရစ်-၂၀၁၉ ခု၊ ဖေဖဝါရီလ(၂)ရက်၊ စနေနေ့**

မန္တလေးမြို့၊ဂျွန်းဗလီ
အေရှာအ်နမားဇ်အပြီး

၃၁၊ ၁၀၊ ၂၀၁၈

ﷺ

**လေးစားအပ်သောလူကြီးမင်းများခင်ဗျား....**

အစ္စလာမ်သာသနာဟာ ဂျန္နသ်ကိုသွားရာလမ်းနင့်စပ်လျဉ်းပြီး တောတောင်တွေကို ဖြတ်ပြီးတော့၊ ဂူတွေထဲမှာ နှစ်ရှည်လများအောင်းပြီးတော့ ဂျန္နသ်ကို လာရမယ်လို့ ဆိုမထားခဲ့ပါဘူး။ လူ့အဖွဲ့အစည်းအတွင်းမှာနေပြီးတော့ လူ့တာဝန်ဝတ္တရားတွေကို ကျေပွန်ပြီး အာခေရသ်ရဲ့ခရီးမှာ ဖြောင့်ဖြောင့်ဖြူးဖြူးနဲ့ သာသာယာယာ ဂျန္နသ်ကိုရောက်ရှိဖို့ လမ်းညွှန်ထားပါတယ်။

လူသားရဲ့ ဖြစ်စဉ်တစ်ခုလုံးကို ကြည့်မယ်ဆိုရင် လူ့ရဲ့ဝတ္တရားတွေ မြောက်မြားစွာ ရှိခဲ့ပါတယ်။ အဲ့ဒီဝတ္တရားတွေထဲမှာ အနီးကပ်ဝတ္တရားတွေရှိနေသလို အဝေးကနေပြုလုပ်ရတဲ့ ဝတ္တရားတွေလည်းရှိနေပါတယ်။ အဲ့ဒီလိုဝတ္တရား အသီးသီးရှိတဲ့အထဲက မိမိနင့်အနီးစပ်ဆုံးရှိနေတဲ့ ကြင်ဖော်ကြင်ဖက် ဇနီးမောင်နှံတို့ရဲ့ ဝတ္တရားဟာ ဘယ်လောက်အရေးကြီးလဲဆိုတာကို ကျွန်တော်တို့ နားလည်ထားဖို့ လိုပါတယ်။ ဒါကြောင့် အကြီးအကဲများက အမိန့်ရှိကြတယ်။

**النكاح هو العبادة**

နေကာဟ်ဟာအေဗာဒသ်ဖြစ်တယ်။ အေဗာဒသ်တိုင်း အေဗာဒသ်တိုင်းကို ကျွန်တော်တို့နားလည်ကြတယ်။ သာဓကအနေနဲ့ ယခုအေရှာနမားဇ် ဖတ်ပြီးသွားပြီး မနက်ဖဂျရ် အချိန်ထိ ကျွန်တော်တို့အပေါ် ဘယ်နမားဇ်မှ ဖရဇ်မဟုတ်တော့ဘူး။ ထိုနည်းအတိုင်းပဲ ရိုဇာရဲ့အေဗာဒသ်ဟာ သတ်မှတ်ထားတဲ့လ၊ သတ်မှတ်ထားတဲ့ အချိန်အတွင်းမှာပဲ ရိုဇာထားရတယ်။ အဲဒီအတိုင်းပဲ ဇကားသ်ရဲ့အေဗာဒသ်၊ ဟဂ်ျရဲ့ အေဗာဒသ်ဒါတွေဟာ သူ့အတိုင်းအတာတစ်ခုအတွင်းမှာ အားလုံးပြီးစီးသွားပါတယ်။ သို့သော်လည်းပဲ ပညာရှင်အကြီးအကဲများက သာသနာရဲ့နှစ်လိုဖွယ်ရာ အချက်တစ်ခုကို ဒီထဲမှာထုတ်ပြထားခဲ့တယ်။

## النكاح هو العبادة

နေကာဟ်ဟာ အေဗာဒသ်ဖြစ်တယ်လို့ ဆိုထားတဲ့အတွက်ကြောင့် နေကာဟ်ဖြစ်ထားတဲ့ ဇနီးမောင်နှံနှစ်ဦးဟာ အကြင်လင်မယား ဖြစ်နေသမျှကာလပတ်လုံး အေဗာဒသ်ထဲမှာ ရှိနေကြတယ်လို့ ဆိုပါတယ်။

ကျွန်တော်တို့နားလည်ထားတဲ့အရာက နေကာဟ်ဟာ လူသားရဲ့သွေးသားတောင်းဆိုမှု ကြောင့်ဖြစ်လာတယ်လို့ ကျွန်တော်တို့နားလည်ထားကြတယ်။ ဒီလိုပဲ ကျွန်တော်တို့ သဘောပေါက်ကြတယ်။ ဒါပေမဲ့ နေကာဟ်ဟာ အေဗာဒသ်တစ်ခု ဖြစ်တယ်လို့ သာသနာကမိန့်ဆိုထားခဲ့ပါတယ်။ ဟဒီးဆ်တော်မှာ တမန်တော်မြတ် ﷺ အမိန့်ရှိထားပါတယ်။

إِذَا تَزَوَّجَ الْعَبْدُ فَقَدِ اسْتَكْمَلَ نِصْفَ الدِّينِ ، فَلْيَتَّقِ الله فِي النِّصْفِ الْبَاقِي.

رواه الْبَيْهَقِيُّ_٣/٣٠٧٨

လူသားဟာ နေကာဟ်ပြုလိုက်ပြီဆိုတာနဲ့ သူရဲ့အီမာန်ဟာ တစ်ဝက်ပြည့်စုံသွားတယ်တဲ့။ ကျန်တဲ့တစ်ဝက်နဲ့ပတ်သက်ပြီးတော့ သက္ကဝါတရားထားပါတဲ့။ အလ္လာဟ်ကို ကြောက်ရမယ်တဲ့။ သက္ကဝါဆိုတဲ့ ဒီတရားဟာ သိပ်ပြီးတော့ လေးနက်ပါတယ်။ ကျွန်တော်တို့တတွေ ဥပဒေနဲ့အညီသွားဖို့ဆိုတာ အင်မတန်လွယ်ကူပါတယ်။ ဒါပေမဲ့ အဲ့ဒီဥပဒေမှာ ကိုယ်ကျင့်တရားတွေ၊ စာရိတ္တတွေကိုပါထည့်ပြီးတော့သုံးရမယ်။ ပညာရှင်အကြီးအကဲများက အမိန့်ရှိတယ်။ နေကာဟ်ရဲ့ခွသ်ဗာဖတ်တိုင်းဖတ်တိုင်းမှာ သက္ကဝါတရားနဲ့ပတ်သတ်တဲ့ အာယသ်တွေကို ထည့်ဖတ်ကြတယ်။ ကျန်တဲ့အာယသ်တွေကို မဖတ်ကြဘူး။ ဒါဟာ စွဟာဗဟ်သာဝကများ ခေတ်ကတည်းက ယနေ့အချိန်တိုင်ပဲဖြစ်တယ်။ ကျန်တဲ့ကုရ်အာန်အာယသ်တွေ အမြောက်အမြားရှိသော်လည်း နေကာဟ်လုပ်တဲ့အခါ....

" اتَّقُوا الله – اتَّقُوا الله – اتَّقُوا الله"

သက်ဝါတရားထားကြပါလို့ပဲ အကြိမ်ကြိမ်မိန့်မှာကြတယ်။

ဘာကြောင့်လဲဆိုတော့ အိမ်ထောင်ရေးဟာ သက္ကဝါနဲ့တည်ဆောက်ရတာ။ ဥပမာ ကျွန်တော့ဇနီးသည်ကို ကျွန်တော်ဟာ မျက်မှောင်ကြုတ်ပြီးကြည့်မယ်ဆိုရင်

ဥပဒေအရအရေးယူ လို့မရဘူး။ ဒါပေမဲ့ သက္ကဝါတရားက အဲ့လိုမဟုတ်ပါဘူး။ ဒီထက်လေးနက်တယ်။ ဒီထက်နက်ရှိုင်းတယ်။ သက္ကဝါတရားဟာ နှလုံးသားနဲ့ သက်ဆိုင်တယ်။ ကျွန်တော်တို့ဟာ အပေါ်ယံလုပ်ရှားမှုကိုကြည့်ပြီးတော့ အိမ်ထောင်ရေးကို တည်ဆောက်ကြတယ်။ တကယ်တမ်းတော့ သက္ကဝါတရားကို အခြေခံပြီးတော့မှ အိမ်ထောင်ရေးကိုတည်ဆောက်ကြရမှာ ဖြစ်တယ်။

နေကာဟ်နဲ့ပတ်သက်ပြီးတော့ ပညာရှင်အကြီးအကဲများက ကျမ်းစာပေါင်းမြောက်မြားစွာမှာ အမိန့်ရှိထားခဲ့ပါတယ်။ အချိန်ရသလောက် အနည်းငယ်တင်ပြသွားပါမယ်။ နေကာဟ်ဟာ အီမာန်ရဲ့တစ်ဝက်ဖြစ်တယ်လို့ တမန်တော်မြတ်ﷺ အမိန့်ရှိခဲ့ပါတယ်။ သာဝကကြီး အဗ်ဒွလ္လာဟ်ဗင်နမတ်စ်အူးဒ်ﷺသခင်အမိန့်ရှိတယ်။ ငါရဲ့သက်တမ်းသုံးရက်မျှကျန်တော့လည်း ငါနေကာဟ်လုပ်ချင်သေးတယ်လို့ သာဝကကြီးက အမိန့်ရှိခဲ့တယ်။ အာလင်မ်ပညာရှင်အဆက်ဆက်အမိန့်ရှိခဲ့တယ်၊ အချို့သောဂိုနာဟ်တွေအတွက် ကဖာရဟ်ဖြစ်စေဖို့ တော်တော်ခဲယဉ်းပါတယ်။ သို့သော်လည်း မိသားစုစားဝတ်နေရေးအတွက် အပင်းပန်းခံဒုက္ခခံရှာဖွေလုပ်ကိုင်ပေးခြင်းဟာ များစွာသော ဂိုနာဟ်တွေကို ကဖာရဟ်ဖြစ်စေရန် အကြောင်းခံဖြစ်တယ်။ ဟဇရသ်ဗိရ်ှရ်သခင်က အမိန့်ရှိခဲ့တယ်။ အေမာမ်အဟ်မဒ်ﷺသခင်ဟာ သုံးခုသောအရာမှာ ကျွန်တော့်ထက် သာလွန်မြင့်မြတ်ပါတယ်။

၁။ သူဟာ မိသားစုအတွက်ရှာဖွေတယ်။ ကျွန်တော်က ကျွန်တော်တစ်ဦးတည်းအတွက်သာ ရှာဖွေပါတယ်။

၂။ ကျွန်တော်က နေကာဟ်မရှိဘူး။ သူက နေကာဟ်ရှိတယ်။

၃။ ကျွန်တော်က ကျွန်တော့်ကောင်းစားရေးအတွက် အလုပ်လုပ်နေတယ်။ သူက အွမ်မသ် ကောင်းစားရေး အတွက် အလုပ်လုပ်နေတယ်။

ဒီသုံးချက်ပဲကွာပါတယ်။ ဆိုလိုတာက နေကာဟ်ရှိတဲ့အတွက်ကြောင့်မို့လို အဲ့ဒီပုဂ္ဂိုလ်ဟာ သူ့ထက်သာတယ်လို့ ဆိုသွားခြင်းဖြစ်တယ်။ ဟဒီးဆ်တော်မှာလည်း တမန်တော်မြတ်ﷺ၏ဩဝါဒ တော်လာရှိထားပါတယ်။ နေကာဟ်ရှိသူတစ်ယောက်ရဲ့ နမားဇ်တစ်ကြိမ်ဟာ နေကာဟ်မရှိသူ တစ်ယောက်ရဲ့ နမားဇ်အကြိမ် ၇၀ ထက်မွန်မြတ်ပါတယ်။ မနေ့ကနဲ့ ဒီနေ့ကွာခြားအောင် နေကာဟ်ကပြုလုပ်ပေးလိုက်

တယ်။ မနေ့က နမားဇ်တစ်ကြိမ်ဖတ်လိုက်တဲ့ အကျိုးစဝါးဗ်ဟာ ယနေ့နေကာဟ်ပြု လိုက်တော့ အကြိမ် ၇၀ ဖတ်တဲ့ အကျိုးစဝါးဗ်ရရှိသွားတယ်။

ဒီအတိုင်းပဲ နေကာဟ်နဲ့ပတ်သတ်ပြီးတော့ မြောက်မြားစွာသောနေရာတွေမှာ ကျွန်တော်တို့ကို ဆုံးမဩဝါဒတွေပေးထားခဲ့ပါတယ်။ ဒါဖြစ်ရင် နေကာဟ်ဆိုတာက မတူကွဲပြားတဲ့သူ နှစ်ဦးကို စုပေါင်းခြင်းဖြစ်တယ်။ ပညာရှင်များအမိန့်ရှိပါတယ်။ အလ္လာဟ်နှင့်ဗန္ဒာကို ဆက်သွယ်ပေးတဲ့ လုပ်ငန်းကို ဒအ်ဝသ်လို့ ခေါ်ပါတယ်။ ဗန္ဒာကိုဗန္ဒာနဲ့ဆက်သွယ်ပေးတဲ့ လူသားအချင်းချင်း ဆက်သွယ်ပေးတဲ့လုပ်ငန်းကို နေကာဟ်လို့ခေါ်ပါတယ်။ သို့ဖြစ်ရင် လူသားကိုလူသားနဲ့ ဆက်နွယ်ပေးတဲ့ လုပ်ငန်း -နေကာဟ်ကို ဘယ်ပုံစံသဘောထားကြမလဲ။

ဟဇရသ် မောင်လာနာ ကာရီ သွိုင်ယစ်ဗ် စွာဟစ်ဗ် ﷺ သခင်က သုတေသနပြု စိစစ်တွေ့ရှိထားတဲ့အရာတစ်ခုကို အမိန့်ရှိခဲ့တယ်။ တကယ်တော့ အလ္လာဟ် အရှင်မြတ်ဟာ ___

إِنَّ اللّٰهَ عَلَى كُلِّ شَيْءٍ قَدِيرٌ

အရာအားလုံးကို အကြွင်းမဲ့တတ်စွမ်းနိုင်တော်မူသော အရှင်ဖြစ်တယ်။ အလ္လာဟ်ထံတော်ပါးမှာ ဘယ်အရာမျှမဖြစ်နိုင်ဘူးဆိုတာ မရှိဘူး။ အရာအားလုံးကို စွမ်းဆောင်နိုင်တော်မူသော အရှင်ဖြစ်တယ်။ ဒါပေမဲ့ ဟဇရသ်အာဒမ်عليه السلامကို ဖန်ဆင်းပြီး ၎င်းနှင့်အတူ အဖော်အဖြစ်တည်ရှိရန် ဟောင်ဝါအ်သခင်မကို ဖန်ဆင်းတဲ့နေရာမှာ တမန်တော်အာဒမ်عليه السلامရဲ့ နံရိုးနဲ့ဖန်ဆင်းခဲ့တယ်။ အခြားပုံစံ၊ အခြားအရာတွေကနေ ဖန်ဆင်းလို့ရတယ်။ သို့သော်လည်း အလ္လာဟ်အရှင်မြတ်က တမန်တော်အာဒမ်عليه السلامရဲ့နံရိုးနဲ့ပဲ ဟောင်ဝါဟ်သခင်မကို ဖန်ဆင်းခဲ့တယ်။ ဘာကြောင့်လဲ။ အဲဒီလို ဖန်ဆင်းရခြင်းမှာ အများကြီးဟစ်က်မသ်တွေရှိနေပါတယ်လို့ ဆရာကြီးက အမိန့်ရှိတယ်။ သူရဲ့ခန္ဓာကိုယ်အစိတ်အပိုင်းနဲ့ ဖန်ဆင်းထားတဲ့အတွက်ကြောင့် အမျိုးသမီးဆိုတာ အမျိုးသားရဲ့ သွေးသားအစိတ်အပိုင်းတစ်ခုသာဖြစ်တယ် ဆိုတာကို ကမ္ဘာဦးအစ၊ သမိုင်းအစကတည်းက ကျွန်တော်တို့ကို သတိပေးထားခြင်းဖြစ်တယ်။ အမျိုးသမီးဟာ သူစိမ်းမဟုတ်ဘူး။ ဒါဟာအမျိုးသားရဲ့ အစိတ်အပိုင်း တစ်ခုဖြစ်တယ်ဆိုတာ မီးမောင်းထိုးပြနေခဲ့တယ်။

ထပ်ပြီးအမိန့်ရှိပါတယ်။ အဲ့ဒီလိုဖန်ဆင်းတဲ့နေရာမှာ အလ္လာဟ်အရှင်မြတ်ဟာ မိမိနှစ်သက်တဲ့ ခန္ဓာကိုယ်အစိတ်အပိုင်းကိုယူပြီးတော့ ဖန်ဆင်းလို့ရတယ်။ ခြေထောက်ကနေယူပြီး ဖန်ဆင်းလည်းရတယ်။ လက်ကနေလည်းရတယ်။ ခေါင်းကနေလည်းရတယ်။ နေရာတိုင်းကနေ ယူပြီးဖန်ဆင်းလို့ရတယ်။ သို့သော်လည်း ဘယ်ဘက်နံရိုးကနေမှ ဘာကြောင့်ဖန်ဆင်းရတာလဲ၊ အဲဒီမှာလည်း ဟစ်က်မသ် ရှိတယ်။ နံရိုးလို့ဆိုခြင်းအားဖြင့် ခန္ဓာကိုယ်ရဲ့ရှေ့မှာလား နောက်မှာလားလို့ ကြည့်လိုက်မယ်ဆိုရင် ရှေ့မှာလည်းမဟုတ်၊ နောက်မှာလည်း မဟုတ်တာကို တွေ့ရမယ်။ ဘေးမှာပဲ ကပ်လျက်ရှိနေတာကိုတွေ့ရမယ်။ အပေါ်မှာလား အောက်မှာလား ကြည့်ပြန်ရင်လည်း အပေါ်လည်းမဟုတ် အောက်လည်းမဟုတ် အလယ်မှာပဲရှိနေတာကို တွေ့ရမယ်။ အဲ့ဒါကြောင့် မိမိရဲ့ပါရမီဖြည့်ဖက် ကြင်ဖော်ကြင်ဖက်အဖြစ်ထားရမယ်။

အဲ့ဒီဇနီးဆိုတာဟာ မီးဖိုချောင်ထဲမှာ စွန့်ပစ်ထားရမယ့် အိမ်ဖော်အစေခံ မဟုတ်ဘူး။ များစွာသောနေရာတွေမှာ အမျိုးသမီးတွေဟာ အမျိုးသားတွေကို "မရှ်ဝရဟ်" အကြံကောင်း ဉာဏ်ကောင်းတွေပေးပြီးတော့ အကျိုးပြုသွားတာတွေ သမိုင်းမှာအထင်အရှားတွေ့ရှိရတယ်။

တမန်တော်မြတ်ﷺ ဟိုဒိုင်ဗီယဟ် ပြေငြိမ်ရေးစာချုပ် ချုပ်ဆိုပြီးနောက် စွာဟာဗဟ်တွေကို အမိန့်ရှိတယ်။ မင်းတို့အားလုံး ခေါင်းတွေရိတ်လိုက်ကြတော့။ တမန်တော်အမိန့်ရှိတယ်ဆိုရင် အသက်ပေးဖို့အဆင်သင့် ဖြစ်နေကြတဲ့ စွဟာဗဟ်တွေ ခေါင်းရိတ်ဖို့ ချီတုံချတုံဖြစ်နေတယ်။ တစ်ယောက်မှ မရိတ်ကြသေးဘူး။ ဒီအချိန်မှာ တမန်တော်မြတ်ﷺ တော်တော်လေး စိတ်ထိခိုက် သွားတယ်။ တမန်တော်မြတ်ﷺ တဲထဲကို ပြန်ဝင်လာလိုက်တယ်။ တမန်တော်မြတ်ﷺရဲ့ မျက်နှာရိပ်မျက်နှာကဲကို ကြည့်ပြီးတော့ သခင်မကြီးအွမ်မေ့စလ်မဟ်ﷺက အို_ကိုယ်တော် ဘယ်လိုဖြစ်လာပါသလဲလို့ မေးမြန်းလျှောက်ထားတယ်။ ကိုယ်တော်က အမိန့်ရှိတယ်။ ငါရဲ့အမိန့်ကို စွဟာဗဟ်တွေက ဘယ်တော့မဆို အပြည့်အဝနာခံကြတယ်။ ယနေ့ငါပြောတယ် မင်းတို့အားလုံး ခေါင်းရိတ်ကြလို့ ဒါပေမဲ့ မတရားမှုတွေကြောင့် စိတ်ဒဏ်ရာ ရနေကြပြီး တစ်ဦးတစ်ယောက်မျှ ခေါင်းမရိတ်ကြဘူးဖြစ်နေတယ်။ အဲ့ဒီအချိန်မှာ သခင်မကြီး အွမ်မေ့စလ်မဟ်ﷺက အို_ကိုယ်တော် ၊ ကိုယ်တော်ဟာ သူတို့တွေကို တကယ် ခေါင်းရိတ်စေချင်တာလား၊ ကိုယ်တော်ကိုယ်တိုင် သူတို့ရဲ့အလယ်မှာသွားပြီး

ခေါင်းရိတ်ပြလိုက်ပါ ဒါဆိုသူတို့တွေ အားလုံးလည်း ခေါင်းရိတ်လာပါလိမ့်မယ်။ သခင်မကြီးရဲ့ အကြံပြုချက်အတိုင်း ကိုယ်တော်ဟာ စွဟာဗဟ်အပေါင်းရဲ့ အလယ်မှာ သွားရောက်ခေါင်းရိတ်ဆံချလိုက်တယ်။ ကိုယ်တော်မပြီးခင်မှာဘဲ စွဟာဗဟ်တွေ အားလုံးလည်း ခေါင်းရိတ်ပြီးသားဖြစ်သွားတယ်။ ဒါဟာ အမျိုးသမီးတစ်ယောက်ရဲ့ အကြံဉာဏ်ကို အကြောင်းခံပြီး ဆောင်ရွက်ခဲ့ခြင်းဖြစ်တယ်။

ကျွန်တော်တို့ဟာ အမျိုးသမီးကို မီးဖိုချောင်ထဲမှာ ထားရမယ်လို့ မှတ်ယူထားတယ်။ တကယ်တော့ ဒါဟာမဟုတ်ပါဘူး။ အဲ့ဒါကြောင့် အမျိုးသမီးကို အမျိုးသားရဲ့ ခြေထောက်ကနေသာ ဖန်ဆင်းခြင်းခံရမယ်ဆိုရင် အမျိုးသားတွေက ပြောကြမယ်။ မင်းတို့ဟာ နိမ့်ကျတဲ့သူတွေဖြစ်တယ်။ အကယ်၍ ခေါင်းကနေ ဖန်ဆင်းခြင်းခံရမယ်ဆိုရင်လည်း အမျိုးသမီးတွေကပြောမယ်။ နင်တို့ ငါတို့ကို ခေါင်းပေါ်တင်ဖျာလိုလိပ်ထားရမယ်လို့ ပြောကြမယ်။ ဒါကြောင့် အလ္လာဟ်အရှင်မြတ်က နေရာမှန်ပေးထားတယ်။ နေရာမှန်ယူတတ်ဖို့လည်းလိုတယ်။ နေရာမှန် ပေးတတ်ဖို့လည်း လိုတယ်။

အဲ့ဒါကြောင့် ပညာရှင်တွေကအမိန့်ရှိကြတယ်။ ကိုယ့်ဇနီးသည်ဟာ သူများမဟုတ်ပါဘူး။ ကိုယ့်ရဲ့အစိတ်အပိုင်းတစ်ခုဖြစ်ပါတယ်။ ကိုယ့်ရဲ့အစိတ်အပိုင်းဖြစ်တဲ့အတွက်ကြောင့် အဲဒီအစိတ်ပိုင်းကို ကြင်နာပါ။ ကိုယ်လက်ကို ဆူးစူး ရင်နာမှာစိုးရိမ်သလို၊ သူ့လက်ကို ဆူးစူးရင်လည်း နာကျင် မယ်ဆိုတာကိုဂရုပြုလိုက်ပါ။ ဒါဆိုရင် သူရဲ့ဒုက္ခ၊ သုခအားလုံးဟာ ကိုယ်ရဲ့ဒုက္ခ၊ သုခအဖြစ်မှတ်ယူပါ။ ကိုယ့်အစိတ်ပိုင်းကို ကြင်နာပါ။

တစ်ခါအမျိုးသမီးကိုလည်း ထပ်ပြီးပညာပေးထားတယ်။ အမျိုးသမီးဟာ အမျိုးသားရဲ့ အစိတ်အပိုင်းဖြစ်တဲ့ အတွက်နာခံပါတဲ့။ သူ့ခန္ဓာကိုယ်ရဲ့အစိတ်အပိုင်းကနေ ငါဟာဖြစ်တည်လာတယ်ဆိုတဲ့ ခံယူချက်ထားပြီးသူ့ရဲ့အမိန့်ကို အပြည့်အဝနာခံရမယ်။ သူပြောစကားကို နားထောင်ရမယ်။ ဒီလိုကြင်နာမှုနဲ့ နာခံမှုပေါင်းထားတဲ့ အိမ်ထောင်ရေးဟာ လောကမှာတင် လောကနိဗ္ဗာန် တစ်ခုဖြစ်သွားနိုင်တယ်။

အဲ့တော့ အမျိုးသားဝတ္တရား၊ အမျိုးသမီးဝတ္တရားအားလုံးကို ရှအီရသ်တရားတော်က ပြဋ္ဌာန်းထားပြီးဖြစ်ပါတယ်။ အမျိုးသားကလည်း အမျိုးသမီးအပေါ် ရှာဖွေလုပ်ကိုင်ကျွေးရမယ်။ အမျိုးသမီးနဲ့ရရှိတဲ့ သားသမီးတွေ အပေါ်တာဝန်ကျေပွန်ရမယ်။ ဇနီးသည်ကို ကြင်နာစွာ ဆက်ဆံ ရမယ်။ ဇနီးသည်နှင့်ပတ်သက်လာလျှင်

မျက်နှာကို ဘယ်တော့မှမရိုက်ပါနဲ့လို့ ရှရီအသ်တရားတော်မှာ အမိန့်ရှိထားတယ်။ ဟဒီးဆ်မှာ တမန်တော်မြတ်ﷺ အမိန့်ရှိထားတယ်။ အသင်ဟာ ဇနီးသည်ကို မကျေမနပ်ဖြစ်နေပြီလား အသင်လုံး၀ မကျေမနပ်ဖြစ်နေပြီဆိုရင် မကျေနပ်သမျှ ကာလာပတ်လုံး နောက်ဆုံးအဆင့်အနေနဲ့ ထိုဇနီးသည်နဲ့ ခေတ္တခွဲနေလိုက်ပါ။ ပါးစပ်ကလည်း ဟိုဟိုဒီဒီ မပြောပါနဲ့။ ဆဲရေးတိုင်းထွာခြင်းလည်း မပြုပါနဲ့။ ဘာလက်နက်ကြီးမှလည်း မသုံးပါနဲ့။ ဘာတစ်ခွန်းမျှမပြောဘဲ ခနလေးဘဲ ခွဲနေပေးလိုက်ပါတဲ့။ အချိန်ကာလတစ်ခုအတွင်းမှာ အပြောင်းအလဲဖြစ်သွားပါလိမ့်မယ်တဲ့။ ဘာကြောင့်လဲဆိုတော့...

**وَجَعَلَ بَيْنَكُمْ مَوَدَّةً وَرَحْمَةً**

အလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင်က ဇနီးမောင်နှံတိုင်း၊ မောင်နှံတိုင်းရဲ့ ကြားထဲမှာ ချစ်ခြင်းမေတ္တာနှင့် အကြင်နာတရားကို ထည့်ပေးထားတော်မူတယ်။ အဲ့ဒါကြောင့် အရေးကိစ္စဟူသမျှဟာ မဖြေရှင်းလို့မပြီးဘူး။ စီးပွားရေး မဖြေရှင်းလို့ မပြီးဘူး။ ဖြေရှင်းမှ ပြေလည်တယ်။ နိုင်ငံရေး မဖြေရှင်းလို့မပြီးဘူး။ ဖြေရှင်းရတယ်။ ဒါပေမဲ့ အိမ်ထောင်ရေး တတိယလူမပါခဲ့နဲ့ အလိုလိုပြေလည်တယ်။ သူတို့ အချင်းချင်းဆို ပြေလည်နိုင်တယ်။ သူတို့အချင်းချင်း ကိစ္စဟာ တတိယလူသာမပါခဲ့နဲ့ အတိုင်းအတာတစ်ခုအတွင်းမှာ အလိုလိုပြေလည်သွားနိုင်တယ်။ ဒါကြောင့် အမျိုး သားများဟာ အမျိုးသမီးများကို အတတ်နိုင်ဆုံး ကြင်ကြင်နာနာယုယုယယနဲ့ မိမိတို့ရဲ့ လက်တွဲဖေါ်အဖြစ် လမ်းကြောင်းမှန်ပေါ်တင်ပေးသွားရမှာဖြစ်တယ်။

အမျိုးသမီးများကလည်း အမျိုးသားများသည် မိမိတို့ရဲ့ကျေးဇူးရှင်ဖြစ်တယ် ဆိုတဲ့ အသိတရားကို ထွေးပိုက်ထားရမယ်။ အဲ့ဒီလိုအသိရဖို့အတွက် တမန်တော်မြတ်ﷺကိုယ်တိုင် အမိန့်ရှိခဲ့တယ်။ အကယ်၍ လူလူချင်း စဂျ်ဒဟ်ပြုလုပ်ခွင့်ရ ခဲ့မယ်ဆိုရင် မိမိတို့ခင်ပွန်းသည်များကို စဂျ်ဒဟ်ပြုလုပ်ဖို့ ငါကိုယ်တော်ဟာ အမျိုးသမီးများကို အမိန့်ပေးခဲ့မှာဖြစ်တယ်။ နောက်တစ်နေရာမှာ ကိုယ်တော်အမိန့်ရှိတယ်။ အကယ်၍ခင်ပွန်းသည်ဟာ ဒီဘက်တောင်ပေါ်က ကျောက်တုံးကို ဟိုဘက်တောင်ပေါ်ကို ယူသွားပါလို့ပြောမယ်ဆိုရင်လည်း ဘာစောဒကမျှမတတ်ဘဲ အဲ့ဒါကို ယူသွားလိုက်ပါတဲ့။ တဖန် အဲ့ဒီတောင်ပေါ်က ကျောက်တုံးကို ဒီဘက်တောင်ပေါ် ယူလာခဲ့ပါလို့ အမိန့်ရှိရင်တောင်မှ အမိန့်နာခံပြီး လုပ်ကိုင်လိုက်ပါတဲ့။ အဲ့ဒီလောက်ထိ အမိန့်နာခံဖို့ တမန်တော်မြတ်ﷺက မှာကြားခဲ့တယ်။ ထပ်ပြီးအမိန့် ရှိထားတယ်။

အကယ်၍ မိမိခင်ပွန်းသည်ရဲ့ ခန္ဓာကိုယ်မှာ အနာတစ်ခုခုဖြစ်ပြီး ပြည်ဖု တည်နေလို့ ယိုကျနေတဲ့ သွေးပြည်တွေကို အမျိုးသမီးကလျှာနဲ့လျက်ပြီး သန့်စင် ပေးလျှင်လည်း အမျိုးသားရဲ့အပေါ် မိမိတာဝန်ကျေပွန်ပြီလို့ မမှတ်ယူလိုက်ပါနဲ့တဲ့။

အဲဒီအတိုင်းပဲ အမျိုးသားများမှာလည်း တာဝန်ကျေပွန်စွာ အိမ်ထောင် ဦးစီး ပြုရန် ကိုယ်တော်က အမိန့်ရှိထားပါတယ်။ တစ်ရက် တမန်တော်မြတ်ﷺ လမ်း လျှောက်ထွက်လာရင်း တစ်နေရာမှာ စွပာဗဟ်တစ်ပါးဟာ သူ့ရဲ့အမျိုး သမီးကို ရိုက်နေတာကို မြင်တွေ့သွားတယ်။ ထိုအခါ တမန်တော်မြတ်က ထိုစွပာဗဟ်ကို ပြောတယ်။ အသင်ဟာ ပုလင်းကိုရိုက်ခွဲပြီး မိမိကိုယ်ကို သတ္တိကောင်းသူလို့ ကြွေးကြော်နေချင်တာလား။ အသင်တကယ် သတ္တိရှိတယ်ဆိုရင် အသင်ထက် အားကောင်းမောင်းသန်ဖြစ်တဲ့သူနဲ့ အသင်တိုက်ခိုက်ပါလား။ ဘာကြောင့် အားနွဲ့တဲ့ သူကို ရိုက်နေရတာလဲ။ ဆိုလိုတာက ဖွဲ့စည်းပုံအရ အားအင်ချည့်နဲ့တဲ့ အမျိုးသမီးကို ဘာကြောင့် ရိုက်နေရတာလဲလို့ အမိန့်ရှိခြင်းဖြစ်တယ်။ အလိုလို သူ့ဘဝကိုက အားနွဲ့နေပြီးသား အဲ့တာကို ကျွန်တော်တို့က ထပ်ပြီးရိုက်နက်နေဦးမယ်ဆိုတာ မလုပ်သင့်တဲ့အလုပ်ဖြစ်တယ်လို့ ကိုယ်တော်သခင်မိန့်ခဲ့ခြင်း ဖြစ်တယ်။

တစ်ရက်မှာ စွပာဗဟ်တစ်ပါးဟာ သူ့ရဲ့ကျွန်ကို ရိုက်နက်နေတာကို တွေ့ရ တယ်။ ထိုအချင်းအရာကို တမန်တော်မြတ်ﷺမြင်တွေ့ပြီးတော့ အမိန့်ရှိတယ်။

**"မင်းသူ့အပေါ်မှာ တတ်စွမ်းနိုင်တာထက် အလ္လာဟ်အရှင်မြတ်က မင်းရဲ့အပေါ်မှာ ပိုပြီးတော့တတ်စွမ်းနိုင်ပါတယ်။"**

လို့ အမိန့်ရှိလိုက်တယ်။

ကျွန်ကိုတောင်မှ အဲ့လိုရိုက်နက်တာကို အစ္စလာမ်သာသနာက ခွင့်မပြုထား ဘူး။ ယနေ့ လူ့အခွင့်အရေး အော်နေတဲ့သူတွေ ဩချလောက်ပါတယ်။ ပျင်း ပျင်းစရာ ကောင်းပါတယ်။ လူသားတွေလုပ်ထားတဲ့လူ့အခွင့် အရေးထက် အစ္စလာမ့် က ပြဋ္ဌာန်းထားတဲ့ လူ့အခွင့်အရေးက အများကြီးမြင့်ပါတယ်။ လူသားတွေပြဋ္ဌာန်း ထားတဲ့လူ့ အခွင့်အရေးဆုံးနေတဲ့နေရာကနေ အစ္စလာမ့်လူ့အခွင့်အရေးက စတာပဲ ဖြစ်ပါတယ်။

တမန်တော်မြတ်ﷺရဲ့ မိသားစုအပေါ်ဆက်ဆံရေးကို လေ့လာကြည့်လိုက်ပါ။ မိခင်ကြီးအာအေရှာ်ﷺသခင်မအမိန့်ရှိတယ်။ ကိုယ်တော်ဟာ ကျွန်မအပါဝင်

မည်သည့်အိမ်သူ အိမ်သားအပေါ်မှ လက်မရွယ်ခဲ့ဘူးပါ။ အာအေရှဟ်ﷺသခင်မက မိမိကိုချစ်လို့ လက်မရွယ်ဘူးလို့ အမိန့်မရှိခဲ့ပါ။ အားလုံးအပေါ်မှာ လက်မရွယ်ခဲ့ဘူးလို့ အမိန့်ရှိခဲ့တာပါ။ ဒါဆို ကိုယ်တော်က မိသားစုဝင်တွေနဲ့ ဘယ်လိုသင့်မြတ်အောင် နေထိုင်ခဲ့လဲဆိုတာ စဉ်းစားစရာဖြစ်လာတယ်။ ကိုယ်တော်နေထိုင်ခဲ့တဲ့ပုံစံကတော့ အင်မတန်လေးစားအပ်ပါတယ်။ ကိုယ်တော်ဟာ အမြဲတမ်းအွမ္မသ်အတွက် သောကဖြစ်ပြီး ပူပင်နေသူတစ်ဦးဖြစ်တယ်။ သို့သော်လည်း ကိုယ်တော်ဘယ်လောက်ပင် သောကများနေပါစေ၊ ဘယ်လောက်ပင် စိတ်ဖိစီးနေပါစေ ကိုယ်တော်က အိမ်ထဲဝင်တဲ့အခါတိုင်းမှာ အပြုံးမျက်နှာနဲ့ ဝင်ရောက်လေ့ရှိတယ်။ ဘယ်သောအခါမှ မျက်နှာပေါ်က အပြုံးဟာ မပျက်ပြယ်ခဲ့ပါဘူး။ မိခင်ကြီးအာအေရှဟ်ﷺ သခင်မက ကဗျာတစ်ပုဒ်တောင် စပ်ထားခဲ့ပါသေးတယ်။ မင်းတို့ ကမ္ဘာသူကမ္ဘာသားတွေအပေါ်မှာ ထွက်တဲ့နေမင်းက နေ့အခါမှာပဲ ထွက်တာပါ။ ငါတို့နေမင်းက နေ့ရောညပါ ထွက်တယ်။ ဘယ်တော့ပဲဖြစ်ဖြစ် ကိုယ်တော်အိမ်ထဲဝင်တဲ့အခါတိုင်း အပြုံးမပျက်ခဲ့ပါ။ ဒါပေမဲ့ ကိုယ်တော့်ရင်ထဲမှာ မီးတောက်နေခဲ့တဲ့ရက်တွေ မနည်းလှပါ။ လူတွေအီမာန်မယူလို့ ကိုယ်တော်ဟာ သတ်သေလုမတတ်ဖြစ်ခဲ့တယ်လို့ ကုရ်အာန်ကျမ်းတော်မြတ်မှာ အတိအလင်းအမိန့်ရှိထားပါတယ်။

ဒါပေမဲ့ကိုယ်တော်ဟာ အိမ်ထဲဝင်လာပြီဆိုတာနဲ့ ရင်ထဲကအပူတွေ အပြင်မှာပဲထားခဲ့တယ်။ မျက်နှာပြုံးရွှင်စွာနဲ့ အိမ်ထဲကိုဝင်ခဲ့တယ်။ တစ်ရက် တမန်တော်မြတ်ﷺအဝေးကနေ ပြန်လာခဲ့တယ်။ အိမ်အပေါက်ရောက်တဲ့အခါ အိမ်ထဲမှာ ဟဇရသ်အာအေရှဟ်ﷺသခင်မ ရေသောက်နေတာကိုမြင်တွေ့တော့ အို_ဟိုမိုင်ရား ရေလေးနည်း နည်းချန်ထားပေးပါလားလို့ အော်ပြီးပြော လိုက်တယ်။ တကယ်တော့ ကိုယ်တော်အတွက် ရေအေးအေးသန့်သန့် တစ်ဖန်ခွက် သီးသန့်လုပ်ပေးဖို့ ဘာမှ မခဲယဉ်းပါဘူး။ ကိုယ်တော်ကလည်း အဲ့လိုမခိုင်းခဲ့ဘူး။ သို့သော်လည်း ကိုယ်တော်ဟာ သောက်လက်စဖြစ်တဲ့ ရေခွက်ထဲက ရေကိုသာ အနည်းငယ်ချန်ထားပါလို့ အမိန့်ရှိလိုက်တယ်။ ခေါ်တာကလည်း နာမည်တတ်မခေါ်ခဲ့ဘူး။ ဟိုမိုင်ရားလို့ ခေါ်တယ်။ ဒါကိုလည်း ပညာရှင်များက ထောက်ပြတယ်။ ကိုယ့်ဇနီးသည်ကို သူကျေနပ်လောက်တဲ့ ချစ်စနိုး အမည်နာမနဲ့ခေါ်ခြင်းသည် စွန္နသ်ဖြစ်တယ်။ သူကျေနပ်လောက်တဲ့ နာမည်နဲ့ခေါ်ရမယ်။ နာမည်ပြောင်တော့ ခေါ်လို့မရဘူး။ ဟဇရသ်အာအေရှဟ်ﷺသခင်မက အသားကဖြူပြီးရဲနေတယ်။ ဒါကြောင့်သူ့ကို ဟိုမိုင်ရား နီနီလေးလို့ခေါ်တာ။

ဒီတော့ အာအေရှဟ်ﷺ သခင်မက မိမိသောက်လက်စရေကို ချန်ထားလိုက်ပြီး ကိုယ်တော့်ကို ဆက်သလိုက်တယ်။ ကိုယ်တော်ဟာ သခင်မဆီက ရေခွက်ကိုယူပြီး တစ်ခါတည်း မသောက်လိုက်ဘူး။ ဟဇရသ်အာအေရှဟ်ﷺကို မေးတယ်။ အို_ဟိုမိုင်ရား မင်းဒီရေခွက်ကို ဘယ်နေရာက သောက်တာလဲလို့မေးပြီး အာအေရှဟ်ﷺသခင်မ သောက်တဲ့နေရာကနေမှ ခွက်ကိုလှည့်ပြီး သောက်တယ်။ အဲ့ဒီလောက် ကိုယ်တော်ဟာ မိသားစုအပေါ် စိတ်ကျေနပ်အောင် လုပ်ပေးခဲ့တယ်။

တစ်ရက် ဟဇရသ်အာအေရှဟ်ﷺနဲ့ကိုယ်တော်ဟာ လမ်းလျှောက်ထွက်ခဲ့ကြရင်း အပြေးပြိုင်ခဲ့ကြတယ်။ အဲ့လိုအပြေးပြိုင်တဲ့အခါ အာအေရှဟ်ﷺသခင်မဟာ ငယ်ရွယ်သူဖြစ်လို့ အနိုင်ရသွားတယ်။ ဒီလို နောင်တစ်ချိန် အပြေးပြိုင်တဲ့အခါ တမန်တော်မြတ်ﷺက အနိုင်ရသွားတယ်။ အဲ့ဒီအချိန်မှာ ကိုယ်တော်က ဒါနဲ့ဟိုဟာနဲ့ ကျေပြီနော်လို့ပြောတယ်။ အနိုင်မယူဘူး ဇနီးမယားပေါ်မှာ သရေဖြစ်တယ်လို့ပြောခဲ့တယ်။ ကိုယ်တော်ဟာ သရေပွဲလုပ်ပြပြီးတော့ အွမ္မသ်ကို မီးမောင်းထိုးပြသွားခဲ့တယ်။ ဇနီးနဲ့ခင်ပွန်းဟာ တစ်ယောက်ကို တစ်ယောက်အနိုင်ယူလိုစိတ် မရှိရဘူး။ တစ်ယောက်ကိုတစ်ယောက် နှိမ့်ကျစွာမဆက်ဆံရဘူးဆိုတာကို သင်ပေးသွားတယ်။ ဒါဟာ တမန်တော်မြတ်ﷺရဲ့ ဘဝဖြစ်စဉ်ထဲက ပုံရိပ်တစ်ခုဖြစ်တယ်။ အဲ့ဒီပုံရိပ်တွေကို ကျွန်တော်တို့ရဲ့ ဘဝမှာထည့်ပြီး ကျင့်သုံးဖို့လိုပါလိမ့်မယ်။

ဟဇရသ်မောင်လာနာ မစီးဟွလ်လားခါန်းစွာဟစ်ဗ်ဟာ သူတောင်စင်ကြီးတစ်ပါးဖြစ်ခဲ့တယ်။ ဟဇရသ် မောင်လာနာ အရှ်ရဖ်အလီ ထာနဗီသခင်ကြီးရဲ့ ခလီဖာလည်းဖြစ်တယ်။ အဲ့ဒီသူတော်စင်ကြီးဟာ သူ့ရဲ့သက်တမ်းတစ်လျှောက်လုံးမှာ လူကိုမဆိုထားနဲ့ တိရစ္ဆာန်ကိုတောင်မှ ခဲနဲ့ပေါက်ပြီး မခြောက်လှန့်ဖူးဘူးတဲ့။ မှန်အောင်ပေါက်တာမဟုတ်ဘူးနော် ခြောက်တဲ့အလုပ်တောင် မလုပ်ဘူးတာ။ အဲ့တော့တိရစ္ဆာန်ကိုတောင် အဲ့လိုမလုပ်ခဲ့ဖူးဘူးဆိုရင် လူကိုဘယ်လိုဆက်ဆံမလဲ။ အဲ့ဒီရဲ့နောက်ကွယ်မှာ ဇနီးသည်ကို ဘယ်လိုဆက်ဆံမလဲ။ သိပ်လေးနက်သွားမယ်။

ပါကစ္စတန်ကရာချီကျောင်းရဲ့ ကျောင်းအုပ်ဆရာကြီးတွေဖြစ်တဲ့ ဟဇရသ်မောင်လာနာ မွတ်ဖ်သီသကီးအ်ဴ အွတ်ဆ်မာနီ၊ ဟဇရသ်မောင်လာနာ မွတ်ဖ်သီရဖီးအ်ဴ အွတ်ဆ်မာနီတို့ရဲ့ ရှိုက်ခ်ဖြစ်တဲ့ ဒေါက်တာ အဗ်ဒွလ်ဟိုင်ယ်သခင်က အမိန့်ရှိခဲ့တယ်။ သူရဲ့အိမ်ထောင်သက်တမ်း ၅၀ ရှိခဲ့ပါပြီ၊ အိမ်ထောင်ပြုတဲ့အချိန်က နေစလို့ ယနေ့အချိန်ထိ ငါဟာဇနီးသည်ရဲ့အပေါ်ပြောဆိုတဲ့ လေသံဟာ မပြောင်း

လဲသေးပါဘူး။ လေသံတောင်မပြောင်းသေးဘူးဆိုတော့ ပုံသဏ္ဍာန်ပြောင်းဖို့ ဆိုတာ ဝေးပါတယ်။

အဲ့ဒီလို အကြီးအကဲများဟာ ကျွန်တော်တို့ကို အကောင်းမွန်ဆုံး အိမ်ထောင်မှု ဘဝတွေကို လမ်းညွှန်ပြသခဲ့ပါတယ်။ တကယ်တော့ အိမ်ထောင်သည်ဆိုတာ အနီးစပ်ဆုံးသူတွေဖြစ်တယ်။ အနီးစပ်ဆုံးသူတွေဖြစ်တဲ့အလျောက် တစ်ယောက် တစ်ယောက် နားလည်မှုအပြည့်အဝရှိရမယ်။ အမျိုးသားကလည်း အမျိုးသမီးအပေါ် အကြင်နာဆုံး ဆက်ဆံရမယ်။ အမျိုးသမီးကလည်း အမျိုးသမီးအပေါ် အပြည့် အဝဆုံးနာခံမှုရှိရမယ်။ အဲလိုသာ ကြင်နာမှုနဲ့နာခံမှု နှစ်ခုပေါင်းလိုက် မယ်ဆိုရင် သာယာတဲ့အိမ်ထောင်ရေးဖြစ်သွားပါလိမ့်မယ်။

ဒွန္ဒယာဆိုတာဟာ အကောင်း၊ အဆိုးတွေ ပေါင်းစည်းထားတဲ့ နေရာတစ်ခု ဖြစ်ပါတယ်။ အကောင်းတွေပဲရှိတာဟာ ဂျန္နသ်ဖြစ်တယ်။ အဆိုးတွေပဲရှိတာဟာ ဂျဟန္နမ်ဖြစ်တယ်။ အကောင်း၊ အဆိုး ဒွန်တွဲနေတာဟာ လောကီဒွန္ဒယာပဲဖြစ်တယ်။ အဲ့တော့ အကောင်းနဲ့အဆိုး အများကြီးတွေ့ရမှာဖြစ်တယ်။ ကောင်းတာတွေလည်း အများကြီးတွေ့ရမယ်။ ဆိုးတာတွေလည်း အများကြီးတွေ့ရမယ်။ မတူကွဲပြားတဲ့ အရာနစ်ခုကို ပေါင်းစည်းထားတာဖြစ်တယ်။ ဘယ်လိုပဲကွဲပြားပါစေ ဒါတွေအားလုံး ကို ညှိယူရမယ်။ ဒီလိုညှိပြီးတော့ယူနိုင်မှလည်းပဲ ဒီအိမ်ထောင်ရေးဟာ ပိုပြီးတော့ ခိုင်မြဲမယ်။

ကျွန်တော်တို့ဟာ တူတာကိုပဲယူပြီး မတူတာတွေကို ဘေးဖယ်မယ်ဆိုရင် အကြီးအကဲများက အမိန့်ရှိထားပါတယ်။ အကောင်းတွေသာ ပိုင်ဆိုင်ထားတယ် ဆိုတာ မရှိပါဘူးတဲ့။ လောကမှာ ဒါမျိုးမဖြစ်နိုင်ပါ။ အပြစ်မဲ့သူကိုရှာရင် အဖော်မဲ့သူ ဘဝနဲ့နေရမယ်။ အကောင်းလည်းရှိမယ်။ အဆိုးလည်းရှိမယ်။ အဲ့ဒီလိုအကောင်း အဆိုး ဒွန်တွဲနေတာကို နားလည်းပြီးတော့ သူ့မှာရှိနေတဲ့ အားနည်းချက်တွေကို ကိုယ်ကနားလည်းပြီး ကိုယ်မှာရှိတဲ့အားနည်းချက်တွေကို သူကနားလည်ပေးလာ ရင် ဒီအိမ်ထောင်ရေးဟာ သာယာဖြောင့်ဖြူးတဲ့ အိမ်ထောင်ရေးဖြစ်လာပါလိမ့်မယ်။

အဲ့ဒီ မတူကွဲပြားတဲ့ သူနှစ်ဦးပေါင်းစပ်ခြင်းကနေပြီးတော့ မလိုလားအပ်တဲ့ ပြဿနာတွေ ဆိုတာလည်း ရှိတတ်ပါတယ်။ ဘဝဟာ သူ့အတွက်လည်း မသာယာတော့ဘူး ကိုယ့်အတွက် လည်း မသာယာတော့ဘူး။ သူ့အတွက်လည်း အတူနေလို့မဖြစ်နိုင်တော့ဘူး။ ကိုယ့်အတွက်လည်း အတူနေလို့မဖြစ်နိုင်တော့ဘူး။

ညှိနိူင်းတာလည်းး လမ်းကြောင်းကုန်နေပြီ။ ဘယ်လိုမှမဖြစ်နိုင် တော့တဲ့အဆုံး အခြေအနေတင်းမာလာပြီဆိုရင်တော့ သွလားက်ပေးပြီး ပြတ်စဲခွင့်ရှိတယ်လို့ ကုရ်အာန်ကျမ်းတော်မြတ်မှာ အမိန့်ရှိထားပါတယ်။

အဲဒီလို လက်တွဲလို့ ဘယ်လိုမှ မရတော့ဘူးဆိုရင်တော့ ကောင်းမွန်တဲ့ စွန့်လွှတ်ခြင်းမျိုးနဲ့ စွန့်လွှတ်ရမယ်။ ဟဇရသ် မောင်လာနာ အရှ်ရဖ် အလီ ထာနဝီ ﷺ သခင်ကြီးက ကောင်းမွန်တဲ့ စွန့် လွှတ်ခြင်းဆိုတာ ဘာလဲဆိုတာကိုရှင်းပြခဲ့တယ်။ မင်းရဲ့နပျိုတဲ့ဘဝမှာတောင် ငါ့လိုလူနဲ့ အိမ်ထောင်ကျခဲ့တာ အခု ငါနဲ့အိမ်ထောင် ကျပြီး ကလေးနှစ်ယောက်၊သုံးယောက်ရပြီးသွားပြီ၊ ငါသာ မင်းကို ကွာလိုက်မယ် ဆိုရင် မင်ဘဝဘယ်လိုဒုက္ခရောက်သွားမယ်ဆိုတာကို ငါကြည့်ချင်တယ်ဆိုတဲ့ နီယသ်ရှိမယ်ဆို ကွာရှင်းခွင့်၊ စွန့်လွှတ်ခွင့်ကို မရှိပါဘူးတဲ့။ ဥပဒေတော့ မဟုတ် ဘူးနော်။ ဥပဒေကတော့ စွန့်ပါ၊ ခင်ဗျားကြိုက်သလို စွန့်လို့ရတယ်။ နောက်ဆုံးဟင်း အိုးထဲမှာ ဆားမထည့်လို့ ပြဿနာရှာပြီးစွန့်ပါ အရေးယူလို့မရဘူး။ ဖြစ်တော့ဖြစ် သွားမှာပဲ။ ဒါပေမဲ့ သက္ကဝါဆိုတာ ဒီမှာပြောတော့တာပဲ။ သက္ကဝါအရ စွန့်တယ်ဆို တာ ဘာကိုခေါ်တာလဲ။ သူဟာ ငါနဲ့မရခင်တုန်းက သူ့မိဘက သူ့ဘဝကို သာသာယာယာထားပေးနိုင်ခဲ့တယ်။ ငါနဲ့ရပြီးတဲ့နောက် သူ့မိဘက သူ့ကိုစွန့်ထားခဲ့ တယ်။ ငါနဲ့အိမ်ထောင်ကျပြီးနောက် သူရဲ့သာသာယာယာ ဘဝကလည်း ဒုက္ခ ဆင်းရဲနဲ့ကြုံတွေ့ခဲ့ရတယ်။ ငါသာ သူ့ကိုကွာရှင်းလိုက်မယ်ဆို သူ့မိဘအိမ်မှာ သူ့ဘဝဟာ ပြန်လည်သာယာစိုပြေလာလိမ့်မယ်။ သူ့ဘဝက ကောင်းမွန်လာလိမ့် မယ်လို့ စိတ်ထားမျိုးနဲ့ စွန့်မယ်ဆိုရင်တော့ စွန့်နိုင်ပါတယ်။

အဲ့ဒီလိုမျိုးမဟုတ်ဘဲ တစ်ချိန်တုန်းက သူကဘာမှမဟုတ်၊ ငါနဲ့ရပြီးမှ တောက် တောက် ပြောင်ပြောင်ဖြစ်လာတာ ငါသာ ကွာရှင်းလိုက်မယ်ဆိုရင် သူ့ဘဝပျက်စီးမှာ အသေအချာပဲဆိုတာသိလျက်နဲ့ သူ့ကိုစွန့်လွှတ်ကွာရှင်းလိုက်မယ်ဆိုရင်တော့ ဒါ ဟာ စွန့်လွှတ်ခွင့်မရှိတဲ့ နည်းလမ်းပဲဖြစ်တယ်။ ဒါကို သက္ကဝါလို့ခေါ်တယ်။

တစ်ရက် သူတော်စင်တစ်ပါးထံ ဧည့်သည်တစ်ရောက် ရောက်လာတယ်။ အိမ်မှာ ကြွက်တွေပြေးနေတာကို တွေ့ရတယ်။ ဧည့်သည်အနီးအနားမှာကို ကြွက် တွေပြေးနေတာကို မြင်တွေ့နေရတယ်။ အဲ့တော့ သူတော်စင်ကြီးကို ဧည့်သည်က ပြောတယ်။ ဆရာကြီးခင်ဗျား_ အိမ်မှာ ကြောင်တစ်ကောင်လောက် မွေးလိုက်ပါ လား။ ကြွက်တွေပြေးသွားမယ်။ ဆရာကြီးက ကြွက်တွေ ဘယ်ပြေးသွားမှာလဲ

မေးတော့ အခြားအိမ်ပြေးသွားကြမှာ သေချာတယ်လို့ဖြေတယ်။ ဆရာကြီးက အမိန့်ရှိတယ်။ အေး-မင်းကတော့ ကြောင်မွေးရင် ကြွက်ပြေးတယ်လို့ပြောတယ်။

" ငါ့ဒုက္ခကို သူများဒုက္ခ အဖြစ်မခံနိုင်ဘူး "

ငါကတော့ ကြောင်မွေးလိုက်လို့ အိမ်မှာ ကြွက်ဒုက္ခကင်းသွားမယ်။ ဒါပေမဲ့ ငါ့အိမ်က ကြွက်တွေဟာ သူများအိမ်မှာ ဒုက္ခတစ်ခုအဖြစ် ရောက်ရှိသွားမယ်။ ငါ့ရဲ့ဒုက္ခကို သူများဘာလို့ ပေးခံခိုင်းမှာလဲလို့ အဖြေပေးလိုက်တယ်။ သတ္တဝါဆိုတာ အဲ့တာကို ခေါ်တယ်။ ကိုယ့်ဒုက္ခသူများ ကို မပေးရဘူး။

ဒီဇနီးသည်နဲ့ပေါင်းရတာ အဆင်မပြေပါဘူးဆိုတဲ့ဟာကို သူများလက်ထဲ လွှဲမပေးနဲ့။ သက်ဆုံးတိုင်အောင်ပေါင်းပါ။ ကိုယ့်ဇနီးသည်ကို သက်ဆုံးတိုင်အောင် ပေါင်းပါ။ အပျော်ပေါင်းတာ မဟုတ်ဘူး။ ဒါဟာ အခေရသ်ခရီးမှာ အထောက်အကူ ဖြစ်ဖို့၊ ဂိုနာဟ်တွေကကင်းဖို့ ပေါင်းသင်းခြင်း ဖြစ်တယ်။ ဒါကြောင့် မိမိဇနီးသည်ကို ရိုးမြေကျ သက်ဆုံးတိုင်ပေါင်းရမယ်။ ကိုယ်မပေါင်းချင်လို့ စွန့်လွှတ်လိုက်ပြီး သူများကို ဒုက္ခရောက်စေတော့ဆိုတဲ့ စိတ်ဓာတ်မျိုး ကျွန်တော်တို့မှာ မရှိရဘူး။

တမန်တော်မြတ်ﷺကိုယ်တိုင်အမိန့်ရှိခဲ့တယ်။ တမန်တော်မြတ်ﷺလည်း လူသားဖြစ်တဲ့ အပေါ် အိမ်တွင်းရေး အဖုအထစ်လေးတွေရှိခဲ့တာပါပဲ။ တစ်နေ့ တမန်တော်မြတ်ﷺက အာအေရှာ် သခင်မကို အမိန့်ရှိတယ်။ အို_အာအေရှာ်ﷺ မင်းငါ့အပေါ် မှာ မကြည်ဘူးဆိုတာ ငါသိတယ်နော်။ ဘာလို့လဲဆိုတော့ မင်းကစမ် ကြိမ်တိုင်း ရပ်ဗေ့ မိုဟမ္မဒ်လို့ စကားလုံးသုံးနေကြဖြစ်ပါလျက် ငါ့ကို မကြည်တော့ရင် ရပ်ဗေ့အစ်ဗ်ရာဟီးမ်လို့ စကားလုံးပြောင်းပြီးသုံးတယ်။ ဒါကြောင့် ငါသိရတာလို့ အမိန့်ရှိတယ်။ ဒီအခါ သခင်မကြီးက အို_ကိုယ်တော် ကျွန်မဟာ ကိုယ်တော့်ရဲ့ နာမည်ကိုပဲ စွန့်လိုက်တာပါ ကိုယ်တော့်ကိုတော့ မစွန့်လွှတ်နိုင်ပါဘူးလို့ အဖြေပေးတယ်။

အလွန်အားကျဖွယ်ကောင်းတဲ့ စကားလေးပါ။ နာမည်လေးပဲ မခေါ်တာ ဖြစ်တယ်။ ဒါကလည်း မကျေနပ်ချက်လေးရှိတယ်ဆိုတာ ပေါ်လွင်တယ်။ ကိုယ်တော့်လို အိမ်ထောင်စုထဲမှာတောင် မကျေနပ်ချက်ရှိတယ်ဆိုရင် ကျွန်တော်တို့လို အိမ်ထောင်တွေထဲမှာ မကျေနပ်ချက်တွေ ရှိတတ်ကြပါတယ်။ ရှိလည်းရှိပါတယ်။

အဲ့တော့ အိမ်ထောင်ရေးမှာ မကျေနပ်တာလေးတွေ ဖြစ်ပေါ်လာရင် ဘာလုပ်ကြမလဲ။

တမန်တော်မြတ်ﷺအမိန့်ရှိပါတယ်။ သဘောထားကောင်းတဲ့ အမျိုးသားတွေကို အမျိုးသမီးတွေက အနိုင်ယူတတ်ကြတယ်။ စိတ်ဓာတ်ကြမ်းတဲ့ အများသားတွေကကျတော့ အမျိုးသမီးတွေကို အနိုင်ယူတတ်ကြတယ်။ ဒါကတော့ သဘာဝတရားပါ။ အဲ့ဒီသဘာဝတရားမှာ ကိုယ်တော်ဟာ ငါဘာဖြစ်ချင်တယ် ဆိုတာကိုလည်း အမိန့်ရှိသွားတယ်။ တမန်တော်မြတ်ﷺ အမိန့်ရှိတယ်။ ငါကတော့ မိန်းမတွေ အနိုင်ခံရတဲ့ လူ့သဘောကောင်းကြီးပဲ ဖြစ်ချင်တယ်။ အမျိုးသမီးကို နိုင်တဲ့ မယားနိုင်မင်းတော့ ငါအဖြစ်မခံနိုင်ဘူး။ ငါ့ကိုနိုင်တာ ငါ့ဇနီးသည်ဖြစ်တယ် နိုင်ချင်သလောက်နိုင်ပါစေလို့ အမိန့်ရှိခဲ့တယ်။

သူတော်စင်ကြီးတစ်ပါးရဲ့ ဇနီးသည်ဟာ အင်မတန် နတ်ကြမ်းတယ်လို့ နာမည်ကြီးတယ်။ အင်မတန် အပေါက်ဆိုးတယ်။ သူတော်စင်ကြီးဟာ သူရဲ့ဒုက္ခကို ခါစည်းခံခဲ့တယ်။ လူတွေကပြောတယ်။ ဒီလောက်ဆိုးတဲ့မိန်းမကို ကွာရှင်းလိုက်ပါလား။ ဘာကြောင့် ဒုက္ခခံပေါင်းနေရတာလဲလို့ အကြံပြုကြတယ်။ ထိုအခါ သူတောင်စင်ကြီးက အမိန့်ရှိတယ်။ သူဟာ ငါဆိုတဲ့ ဘာမဟုတ် တဲ့သူကို ကမ္ဘာတစ်ခုလုံးသိအောင် ပါရမီဖြည့်ပေးခဲ့တဲ့သူဖြစ်တယ်။ သူ့ရဲဆိုးသွမ်းမှုတွေကို ငါသည်းခံပေါင်းရင်းပေါင်းရင်း ငါဟာ ကမ္ဘာကျော်ခဲ့ခြင်းဖြစ်တယ်။ သူ့ရဲ့ဒုက္ခကို သည်းခံခြင်းမရှိဘဲ စွန့်လွှတ် ကွာရှင်းလိုက်ရင် ငါဆိုတဲ့သူကို ဘယ်သူမှတောင် သိမှာမဟုတ်ဘူးလို့ အဖြေပေးခဲ့တယ်။

အဲ့တော့ ကျွန်တော်တို့သိထားရမှာက အမျိုးသမီးတွေကို ကောင်းကောင်းမွန်မွန် ဆက်ဆံပါဆိုတာ ဘယ်လိုပုံစံဆက်ဆံရမလဲဆိုတာကို နားလည်ရမယ်။ ပညာရှင်များက ဖွင့်ဆိုတယ်။ အမျိုးသမီးကို ကောင်းကောင်းမွန်မွန် ဆက်ဆံပါလို့ ကုရ်အာန်မှာလာရှိထားတာဟာ အလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင်က မေတ္တာရပ်ခံထားတာဖြစ်တယ်။ အရာရှိတစ်ယောက်က မေတ္တာရပ်ခံ ရင်တောင် ကျွန်တော်တို့ အဲ့ဒီအရာကို အထူးအလေးပေးဆောင်ရွက်ကြတယ်။ အခု အလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင်က အမျိုးသမီးတွေကို တရားမျှမျှတတနှင့် ကောင်းကောင်းမွန်မွန် ဆက်ဆံကြဖို့ မေတ္တာရပ်ခံနေတာဖြစ်တယ်။ အလ္လာဟ်အရှင်မေတ္တာရပ်ခံနေတာကို ပယ်ရဲတဲ့ ဘယ်ယောက်ျားများရှိမလဲ။ အဲ့တော့ဘာလုပ်မလဲ သက်ဆုံးတိုင် ပေါင်း

သင်းမယ်။ တမန်တော် မြတ်ﷺကလည်း အမိန့်ရှိခဲ့တယ်။ သူက ရှိုင်းချင်သလောက် ရှိုင်းပါစေ၊ နိုင်ချင်သလောက် နိုင်ပါစေ အနိုင်ခံလိုက်ပါ။ ကိုယ်ဇနီးသည်ပဲဖြစ်တယ်။

တစ်ရက် တမန်တော်မူစာ ﷺ အလ္လာဟ်အရှင်မြတ်ထံ လျှောက်ထားတယ်။ အို_အလ္လာဟ်အရှင်၊ ဖစ်ရ်အောင် အဖန်ဆင်းခံဗန္ဒာဖြစ်ပါလျက် သူ့ကိုယ်သူ ဖန်ဆင်းရှင်ဘုရားလို့ ကြွေးကြော်နေတဲ့သူဖြစ်တယ်။ အဲ့ဒီလိုသူကို ဘာကြောင့်များ အလ္လာဟ်အရှင်မြတ်က ရိဇိရိက္ခာချီးမြှင့်နေရပါသလဲ။ အလ္လာဟ်အရှင်မြတ်က ပြန်လည်ဖြေကြား အမိန့်ရှိတော်မူတယ်။ အို_မူစာ၊ ဖစ်ရ်အောင်ဟာ ဗန္ဒာဖြစ်ခြင်းကို စွန့်လွှတ်သွားရင်လည်း ငါအရှင်မြတ်ကတော့ "ရဗ်" ကျွေးမွေးစောင့်ရှောက်တော်မူတဲ့အရှင်ဖြစ်ခြင်းကို စွန့်လွှတ်ဖို့မရှိပါဘူးတဲ့။ သူဟာ ဗန္ဒာဘဝကို စွန့်လွှတ်ချင် စွန့်လွှတ်ပါစေ ငါကတော့ "ရဗ်"ဘဝကို စွန့်လွှတ်မှာမဟုတ်ဘူး။ ငါအရှင်မြတ်ဟာ ရဗ်ဖန်ဆင်းရှင် ဖြစ်တဲ့အလျောက် ငါ့ရဲ့ဗန္ဒာတွေအားလုံးကို ရိဇိရိက္ခာပေးနေဦးမှာ ဖြစ်တယ်။

အဲ့တော့ အလ္လာဟ့်ဆန္ဒကလည်းပဲ ကိုယ့်အလုပ်ကိုယ်လုပ်ဖို့ပဲဖြစ်တယ်။ အလ္လာဟ်အရှင်မြတ်ဟာ "ရဗ်" ဖန်ဆင်းရှင်ဖြစ်တယ်။ ဖန်ဆင်းရှင်ဖြစ်တဲ့အလျောက် ဗန္ဒာတွေကို ကျွေးမွေးစောင့်ရှောက်ဖို့ တာဝန်ယူထားတယ်။ ဖစ်ရ်အောင်လို့ ဒီလောက်ဆိုးသွမ်းသောင်းကြမ်းတဲ့ ကိုယ့်ကိုကိုယ် ရဗ်ဖြစ်တယ်လို့ ကြွေးကြော်တဲ့ အဖန်ဆင်းခံကိုလည်း အလ္လာဟ်အရှင်မြတ်က ကျွေးမွေးနေဦးမှာ ဖြစ်တယ်။ အဲ့တော့ ကျွန်တော်တို့ရဲ့ ဇနီးတွေဟာလည်း ဘယ်လောက်ထိအောင် ဆိုးနေလို့လဲ၊ ဘယ်လောက်ထိအောင် ကြမ်းတမ်းနေလို့လဲ။ သူတို့ရဲ့ ဆိုးသွမ်းမှုတွေ့ကြောင့် ကိုယ်ရဲ့တာဝန် ဝတ္တရားတွေကို စွန့်လွှတ်လိုက်မှာလား။ ရိုးမြေကျ သက်ဆုံးတိုင်အောင် ပေါင်သင်းဖို့တာဝန်ဟာ အရေးကြီးပါတယ်။

အကယ်၍သာ သူတို့တွေရဲ့ ဆိုးသွမ်းမှုတွေ၊ ကြမ်းတမ်းမှုတွေနဲ့ ရင်ဆိုင်လာရရင် တမန်တော်မြတ်ﷺရဲကျင့်ထုံးကို နလုံးမူ၍ သက်ဆုံးတိုင် ပေါင်းသင်းနိုင်အောင် ကြိုးစာအားထုတ်ပါ။ အဲ့ဒီလို့ အလ္လာဟ်အရှင်အမိန့်နဲ့ တမန်တော်မြတ်ﷺလမ်းစဉ်အပေါ်မှာသာ သည်းခံပေါင်းသင်းပြီး ဘဝတစ်သက်တာ နေထိုင်သွားမယ်ဆိုရင် အကြင်လင်မယားနှစ်ဦးလုံးဟာ ဂျန္နသ်ကို ရရှိကြမှာဖြစ်ပါတယ်။ နောက်ဆုံးအနေနဲ့ ပြောချင်တာကတော့ နေကာဟ်ဟာ အေဗာဒသ်ဖြစ်တဲ့အလျောက် မိမိအေဗာဒသ်မှာ အမြဲရှင်သန်နေဖို့ တရားတော်နဲ့အညီ အိမ်ထောင်ရေးကို ဆောက်

တည်ကြပါ။ အကြင်လင်မယားနှစ်ဦး တစ်ဦးကိုတစ်ဦး ပြုံး၍ကြည့် နေကြတာကို မြင်ပြီး အလ္လာဟ်အရှင်ကလည်း ပြုံးတော်မူတယ်လို့ တမန်တော်မြတ်ﷺက မိန့်တော်မူခဲ့ပါတယ်။ ဒါကြောင့် အကောင်းအဆိုးဒွန်တွဲနေတဲ့ လောကကြီးမှာ ကြင်နာမှုနဲ့ နာခံမှုပေါင်းစည်းပြီး သက်ဆုံးတိုင်ပေါင်းသင်းနေထိုင်ကြပါလို့ မေတ္တာရပ်ခံချင်ပါတယ်။ အလ္လာဟ်အရှင်မြတ် ကျွန်တော်တို့တွေအားလုံးကို ကောင်းမွန်းသော အိမ်ထောင်ရေးချီးမြှင့်ပြီး သက်ဆုံးတိုင်ရိုးမြေကျ ပေါင်းသင်းနိုင်စွမ်းချီးမြှင့် ပေးသနားတော်မူပါစေ။ အာမီးန်။

ကျူလီယာဗလီ၊ရန်ကုန်မြို့ ၃၊ ၁၁၊ ၂၀၁၈
အေရှာအ်နမားဇ်အပြီး

ﷺ

**လေးစားအပ်သော သာသနာ့သောကရှင် သူတော်စင်အပေါင်းတို့ခင်ဗျား........**

သွလားက်ကိစ္စနှင့်စပ်လျဉ်း၍ အရှေ့မှာအကြိမ်ပေါင်းများစွာ ကြားခဲ့ရပြီးဖြစ်ပါတယ်။ ဒါကြောင့် ပြန်ခါနီးအချိန်မှာတော့ အစပ်တွေကြားကနေ အချိုလေးကြွေးပြီး အခမ်းအနားကို အဆုံးသတ်လိုကြောင်း ကြိုတင်ပြီး မေတ္တာရပ်ခံအပ်ပါတယ်။

တမန်တော်မြတ်ﷺအမိန့်ရှိတော်မူခဲ့ပါတယ်။

**يَدُ اللّٰهِ فَوْقَ الجَمَاعَة**

အလ္လာဟ်အရှင်မြတ်ရဲ့ ရဟ်မသ်တော်လက်ဟာ ပေါင်းစည်းခြင်းအပေါ်မှာ ရှိနေပါတယ်။

သွလားက်ဆိုတဲ့စကားဟာ ဝေါဟာရအဖြစ်နဲ့တောင် ကျွန်တော်တို့
သိမထားဘူးဆိုရင် ပိုတောင်ကောင်းပါတယ်။

ဒီစကားလုံးဟာ ကျွန်တော်တို့ စိတ်ထဲမှာ စွဲထားသင့်တဲ့စကားလုံးမဟုတ်ပါ။ အရေးပေါ်ဖြစ်ပေါ်လာလို့ မလွဲမရှောင်သာ အသုံးပြုရမယ့်စကားလုံးဖြစ်ပါတယ်။ သာဓကအနေနဲ့ ပြောရမယ်ဆိုရင် ယနေ့စူပါပါဝါလို့ပြောတဲ့ အမေရိကန်နိုင်ငံက ပိုင်ဆိုင်ထားတဲ့အနုမြူလက်နက်၊ အဲဒီလက်နက်ကိုအသုံးပြုရင် အမေရိကန်နိုင်ငံသား အားလုံးကပင် ကန့်ကွက်ကြတယ်။ ဒါပေမဲ့ လူအများလေးစားအောင်လို့ လက်နက်ကိုတော့ ထုတ်လုပ်ခွင့်ပေးထားတယ်။ ဒီအတိုင်းပါပဲ အမျိုးသားတစ်ယောက်ကိုလည်း သွလားက်ဆိုတဲ့ လုပ်ပိုင်ခွင့်ပေးထားတယ်ဆိုတာဟာ သူ့ဇနီးသည်က သူ့ကိုလေးစားအောင်လို့ လုပ်ပိုင်ခွင့်တစ်ခုကိုပေးထားခြင်းဖြစ်တယ်။ တကယ်တော့ ဒါကို သုံးဖို့ ဆိုတဲ့စကားမဟုတ်ပါဘူး။

ဖြစ်နိုင်သမျှ ဇနီးသည်ကို သက်ဆုံးတိုင်အောင် ပေါင်းသင်းဖို့ရန်အတွက်သာ သာသနာက လမ်းညွှန်ပေးထားပါတယ်။ ဟဇရသ်ဗာယဇီးသ်ဗွတ်စ်သာမီﷺသခင်ကို

ပုဂ္ဂိုလ်တစ်ဦးက အချစ်နဲ့ပတ်သက်ပြီးတော့ အချစ်ရဲ့သီအိုရီဆိုတာ ဘာလဲဆိုပြီး မေးတယ်။ အချစ်ဆိုတာက ရှင်းရှင်းလေးပဲ။ ကိုယ်ချစ်တဲ့သူကို ဘယ်လောက်ပဲ များများများပေးပေး နည်းတယ်လို့ထင်ရမယ်။ ကိုယ်ချစ်တဲ့သူက ဘယ်လောက်ပဲ နည်းနည်းပေးပေး အများကြီးပေးတယ်လို့ မှတ်ယူရမယ်။ အဲ့ဒါ အချစ်ပဲလို့ ဖြေကြားလိုက်တယ်။ ဝလီသူတော်စင်ကြီးပြောတဲ့အချစ်သီအိုရီ ဘဝသက်တမ်းတစ်လျှောက်လုံး ကျင့်သုံးသင့်တယ်။ ကိုယ့်ဇနီးသည်ဆီက ခေသ်မသ်ဘယ်လောက် နည်းနည်းလေးရရ ဒါကိုအများကြီးလို့ ထင်ရမယ်။ အဲဒီအတိုင်းပဲ ကိုယ့်ခင်ပွန်းဆီက ဘယ်လောက်မျှော်လင့်ချက်ထားထား ပေးတဲ့နည်းနည်းလေးကို အများကြီးလို့မှတ်ယူရမယ်။ နှစ်ဦးနှစ်ဘက် အပြန်အလှန် ဒီလိုနားလည် သွားမယ်ဆိုရင် အဲ့ဒီအိမ်ထောင်ရေးဟာ သာယာတဲ့သီရိဂေဟာတစ်ခု လောကမှာတင် ဖန်တီးလို့ရသွားနိုင်ပါလိမ့်မယ်။

ဒီမှာမေးတဲ့ပုဂ္ဂိုလ်က သာမန်မဟုတ်တဲ့အခါကျတော့ ဒါနဲ့ပတ်သက်ပြီး အထောက်အထားရှိလားလို့ မေးခွန်းထုတ်တယ်။ သူတော်စင်ကြီး ဇာယဇီးသ် ဗွတ်စ်သာမီသခင်ကြီးက အထောက်အထားပြတယ်။ ရှိပါတယ်တဲ့။ ကျမ်းမြတ်ကုရ်အာန်မှာ အလ္လာဟ်အရှင်မြတ်အမိန့်ရှိထားပါတယ်။

قُلْ مَتَاعُ الدُّنْيَا قَلِيلٌ

အလ္လာဟ်အရှင်မြတ်က လူသားကို ပေးထားတဲ့နေအ်မသ်က ဘယ်လောက်များလဲဆိုရင် وَإِنْ تَعُدُّوا نِعْمَتَ اللَّهِ لَا تُحْصُوهَا အလ္လာဟ်နေအ်မသ်တွေ ရေတွက်မည်ဆိုရင်တောင် ရေတွက်လို့ရမည်မဟုတ်။ ရေတွက်လို့မရလောက်အောင် အလ္လာဟ်အရှင် ဒီလောက်များများပေးထားတာ လူတွေအကျိုးခံစားတာ ဘယ်လောက်များလဲဆိုတာ ပြောလို့ကိုမဆုံးနိုင်ပါဘူး။ ဒါပေမဲ့လည်း အလ္လာဟ် အမိန့်ရှိတယ် قُلْ مَتَاعُ الدُّنْيَا قَلِيلٌ မင်းတို့ကို ငါပေးတဲ့ တလောကလုံးရဲ့နေအ်မသ်တွေဟာ နည်းနည်းလေးပဲဖြစ်တယ်တဲ့။ ဒီထက် ပိုပေးချင်သေးတာ။

ဘာကြောင့်လဲဆိုတော့ အလ္လာဟ်က ဗန္ဒဟ်ကိုချစ်တာ။ အလ္လာဟ်ကချစ်လို့ ဒီလောက်အများကြီးပေးထားတာတောင် နည်းနည်းလေးပဲလို့ အမိန့်ရှိတယ်။

လူသားကလည်း ဒါကို ပြန်ပြီးတုံ့ပြန်တယ်။ ဘယ်လိုတုံ့ပြန်လဲဆိုတော့ အိပ်ယာထဲကနေ လူသားက အလ္လာဟ်ကိုသတိရတယ်။ စွဗ်ဟာနလ်လား၊ အလ်ဟမ်း

ဒိုလစ်လား၊ အလ်လားဟို့ အက်ဗရ် အိပ်မပျော်လို့ အလ္လာဟ်ကို သတိရလိုက်တာ။ ဘာမျှငွေကုန်ကြေးကျလည်းမရှိဘူး။ ဘာမျှဒုက္ခလည်းမရောက်ဘူး။ ဘာမျှ အချိန်လည်းမပေးရဘူး။ ဒီလောက်သက်သာတဲ့ ဇကိရ်လေး တစ်ခုလုပ်တာကို အလ္လာဟ်အရှင်မြတ်က ကျမ်းမြတ်ကုရ်အာန်မှာ အမိန့်ရှိထားတယ်။

وَالذَّاكِرِينَ اللّٰهَ كَثِيرًا وَالذَّاكِرَاتِ أَعَدَّ اللّٰهُ لَهُمْ مَغْفِرَةً وَأَجْرًا عَظِيمًا

အလ္လာဟ်ကိုများပြားစွာ သတိရကြတဲ့၊ ဇကိရ်လုပ်ကြတဲ့၊ ဒီထဲမှာ အမျိုးသား၊ အမျိုးသမီးများလို့ အလ္လာဟ်က နှစ်မျိုးစလုံးသုံးထားတယ်။ ဒီမှာ "ကဆီးရန်"လို့ သုံးထားတယ်။ အဓိပ္ပါယ်က အများကြီးလို့ သုံးထားတာ။ တစ်ဘက်က အလ္လာဟ်ရဲ့နေအ်မသ်တွေကို နည်းနည်းလေးလို့ ပြောထားပြီး ဗန္ဒာရဲ့နည်းနည်းလေး ဇကိရ်လုပ်ခြင်းကိုအများကြီးလို့ အမိန့်ရှိထားတယ်။ ဒါဟာ အချစ်ပဲလို့ သူတော်စင်ကြီးက အဖြေပေးလိုက်တယ်။

**အဲ့တော့ အချစ်ဆိုတာဟာ အိမ်ထောင်ရေးရဲ့အဓိကမဏ္ဍိုင်ဖြစ်တယ်။ အိမ်ကိုလက်နဲ့တည်ဆောက်လို့ရပေမဲ့လည်း အိမ်ထောင်ရေးကို နှလုံးသားနဲ့တည်ဆောက်ရတယ်။**

လူတစ်ယောက်နှင့်တစ်ယောက် လက်ဆွဲနှုတ်ဆက်လို့ အချစ်စစ်အချစ်မှန်ရမလာခဲ့ဘူး။ ဒါပေမဲ့ နှလုံးသားချင်းချိတ်ဆက်လိုက်ပါ အချစ်စစ်အချစ်မှန် ရလာလိမ့်မယ်။ ယနေ့ အိမ်ထောင်ရေးတွေ ဖောက်ပြန်ကြတယ်၊ အိမ်ထောင်ရေးတွေ ပြိုကွဲသွားကြတယ်ဆိုတာဟာ တကယ်တော့ မေတ္တာတရားတွေ ခေါင်းပါးလို့ဖြစ်ကြတာပါ။

**တစ်ယောက်ကိုတစ်ယောက် မေတ္တာတရားတွေရှိကြမယ်ဆိုရင် သက်တမ်းကုန်လို့ အလ္လာဟ်အရှင် ရုတ်သိမ်းသွားရင်လည်း အချစ်ကတော့ မပြောင်းလဲဘဲ ကျန်ရှိနေမှာဖြစ်တယ်။**

ယနေ့ ကမ္ဘာ့ထိပ်တန်းရောက်နေပါတယ်ဆိုတဲ့ နိုင်ငံကြီးတွေမှာ မေတ္တာတရားမပါတဲ့ အိမ်ထောင်ရေးတွေ အများကြီးတည်ဆောက်ထားကြတယ်။ တိုးတက်ပါတယ်ဆိုတဲ့ နိုင်ငံကြီးသားတစ်ယောက်ကို "မိတ်ဆွေခင်ဗျားမှာ အိမ်ထောင်ရှိသလား၊ အသက်ဘယ်လောက်ရှိပြီလဲ"လို့မေးတော့ အသက် ၄၈ နှစ်ရှိပြီ အိမ်ထောင်မရှိဘူးလို့ အဖြေပေးတယ်။ ဘာဖြစ်လို့အိမ်ထောင်မပြု တာလဲလို့မေးတော့

သူကပြောတယ်။ သူ့အဖြေကတော်တော်လေး ရိုင်းပါတယ်။ ကျွန်တော်ဒီလို အခမ်းအနားမှာ မတင်ပြချင်ပါဘူး။ သို့သော်လည်း တိုးတက်နေပါတယ်ဆိုတဲ့ နိုင်ငံကြီးသား တစ်ယောက်ရဲ့အယူအဆတစ်ခုကို သိစေချင်လို့ တင်ပြရမှာဖြစ်တယ်။ သူကပြောတယ်။

**Market_ဈေးကွက်ထဲမှာ လိုသလောက်နွားနို့ကို ဝယ်ယူလို့ရနေပါလျက်နဲ့ နွားမကို အိမ်မှာဘာလို့ ချည်ထားနေမှာလဲတဲ့။**

တော်တော်ရက်စက်တဲ့စကားပါ။ နောက်တစ်ယောက်ဘာပြောလဲဆိုတော့။ နင်အရွယ် ရောက်လာပြီတဲ့။ အရွယ်လွန်သွားပြီနော်။ နင့်ထက် အသက်ငယ်တဲ့ မိန်းကလေးတွေအများကြီး အိမ်ထောင်ကျသွားပြီ နင်ကအခုထိ အိမ်ထောင်မပြုသေးဘူးလို့မေးတာကို သူကဘာအဖြေပေးလည်းဆိုတော့ ရှေ့ကဘတ်စ်ကား သွားလိုက်တော့ နောက်ဘတ်စ်ကား ရှိပါတယ်တဲ့။ ဒါဟာ တိုးတက်ပါတယ်ဆိုတဲ့ နိုင်ငံတွေရဲ့ အိမ်ထောင်ရေးဖြစ်တယ်။

သူတို့ ဖောက်ပြန်လာတဲ့ ဖောက်ပြန်မှုတွေကို ကုစားဖို့ရန်အတွက်ကျတော့ ဘာသာသာသနာကို ချပြီးတော့အသုံးပြုတယ်။ တနည်းပြောရမယ်ဆိုရင် သူတို့ဟာ ဘာသာသာသနာကို ကစားစရာတစ်ခုလို့ သဘောထားကြတယ်။ ယနေ့ သုံးသွလားက် သုံးသွလားက်ဆိုတဲ့ အကြောင်းအရာကို နားခါးလောက်အောင် ကြားပြီးပါပြီ။ ကျွန်တော်ပြောချင်ပါတယ်။ မေတ္တာရပ်ခံချင်ပါတယ်။

**သာသနာကို ပြင်ဖို့မကြိုးစားပါနဲ့။ သာသနာက လူလုပ်ထားတာ မဟုတ်ဘူး။ သာသနာက အလ္လာဟ်အရှင် ပြဌာန်းထားတာဖြစ်တယ်။**

ယနေ့ ကမ္ဘာတစ်ခုလုံးမှာ တိုးတက်ပါတယ်ဆိုတဲ့အရာတွေကို ကြည့်ပါ။ ဘယ်လောက် တိုးတက်လဲဆိုရင် ယနေ့ ဘက်ဖိုးကြီးနဲ့မြေတွေကို ကော်လိုက်ပြီးတော့ဇလားကြီးထဲကို ထည့်လိုက်၊ ဇလားကြီးထဲကနေ မြေကြီးက တစ်ခြား၊ ကြေးကတစ်ခြား၊ ဒန်သတ္တုကတစ်ခြား၊ ရွှေကတစ်ခြား ထွက်လာတာကို တွေ့ရမယ်။ ထည့်လိုက်တာတော့ မြေကြီးပဲ။ ဒါပေမဲ့ ထွက်လာတာကတော့ အကုန်လုံး တစ်ခြားစီ၊ အသက အသကစီထွက်လာတာကို တွေ့ရမယ်။ တိုးတက်ပါတယ်။ သိပ်ပြီးတိုးတက်ပါတယ်။ ဒါဆိုရင် အဲ့ဒီမိတ်ဆွေများတင်မဟုတ် ကျွန်တော်တို့ ကိုယ်တိုင် လည်း သိနေကြတဲ့အရာရှိတယ်။ အဲ့ဒါကတော့ လူသားမျိုးနွယ်ဆက်ကို

အလ္လာဟ်အရှင်မြတ်က ဘယ်လိုလုပ်ပြီးဖန်ဆင်းထားလဲ။ အာဒမ်ﷺသခင်ကို မြေကြီးကနေဖန်ဆင်းထားတယ်။ ဟောင်ဝါဟ်ﷺသခင်မကို သူ့ရဲ့နံရိုးကနေဖန်ဆင်းထားတယ်။ အဲ့ဒီနှစ်ဦးပေါင်းပြီးတော့ မနီသုတ်ရည် တစ်စက်ကနေ လူသားမျိုးနွယ်တစ်ခုလုံးကို အလ္လာဟ်အရှင်မြတ်က ဖန်ဆင်းထားတယ်။ အဲဒီသုတ်ရည်ဘယ်က ရလဲ။ ကျွန်တော်တို့စားနေတဲ့ အဟာရဖြစ်တဲ့အစားအစာ ဆန်၊ ဂျုံ အသားငါး တွေကရတယ်။ အဲ့တော့ ဒီဂျုံတွေ၊ ဆန်တွေ၊ အသားငါး တွေကို စက်ယန္တရားတစ်ခုထဲမှာထည့်ပါ။ ပြီးတော့ စက်ယန္တရားကြီးကို လည်လိုက်ပါ။ ထုတ်ကြည့်လိုက်ပါ။ ဒီဘက်က မနီသုတ်ရည် တစ်စက်လောက်များ ထွက်လာအောင် ဘယ်သူများလုပ်ပြနိုင်မလဲ။ ဘယ်သိပ္ပံပညာရှင်က ဒါကို စွမ်းနိုင်မလဲ။ ဘယ်ကျွမ်းကျင်ပညာရှင်က လုပ်ပြလို့ရမလဲ။ ဘယ်သူမှ လုပ်ပြလို့မရဘူး။

**အဲ့ဒီတော့ လူလုပ်ပြလို့မှ မရသေးတဲ့ လူတစ်ယောက်က လူ့အတွက် ဥပဒေပြဋ္ဌာန်းဖို့ စိတ်ကိုမကူးနဲ့။ ဥပဒေပြဋ္ဌာန်းတယ်ဆိုတာက ကိုယ့်လက်အောက်ရှိတဲ့အရာပေါ်မှာမှ ပြဋ္ဌာန်းလို့ရတာ။ အလ္လာဟ်ဖန်ဆင်းထားတဲ့ လူသားအပေါ်မှာ ကိုယ်ကဘာလို့ လက်ထည့်ချင်ရတာလဲ။ ဒါက လက်ထည့်သင့်တဲ့အရာမဟုတ်ဘူး။**

**တကယ်ပြင်ရမှာက ဥပဒေမဟုတ်ဘူး။ တကယ်ပြင်ရမှာက**

**လူတွေရဲ့အမူအကျင့်။ နည်းနည်းလေးပဲ လွဲသွားတယ်။**

အကြီးအကဲများအမိန့်ရှိတယ်။ ယနေ့ခေတ်မှာရှိတဲ့ လူတွေနဲ့ စွဟာဗဟ်တွေနဲ့ ကွာခြားမှုဟာ အများကြီးမရှိပါဘူးတဲ့။ တစ်ခုတည်းကွာတာပါတဲ့။ ကျွန်တော် အံ့အားသင့်လို့ နားစွင့်ပြီး နားထောင်ကြည့်တယ်။ တစ်ခုတည်းသာကွာတာဆို ဖြစ်ဖို့ကြိုးစားလို့ရနိုင်တယ်လို့ အောင်းမေ့မိတယ်။ ဒါပေမဲ့ ပညာရှင်အကြီးအကဲက ဘာပြောသွားသလဲဆိုတော့ စွဟာဗဟ်သာဝကများဟာ မိမိတို့အသက်နှင့် မိမိတို့စီးပွားဟာ အလ္လာဟ်ပိုင်ဆိုင်တဲ့အရာလို့ ခံယူထားတာတဲ့။ ကျွန်တော်တို့ဟာ ကျွန်တော်တို့အသက်နဲ့ကျွန်တော်တို့ စီးပွားကို ကျွန်တော်ပိုင်ဆိုင်ထားတယ်လို့ ခံယူထားတာတဲ့။ ဒါလေးပဲကွာခြားတာပါတဲ့။ အဲ့ဒါပါပဲ။ ကွာတာသိပ်အများကြီးမဟုတ်ဘူး နည်းနည်းလေးပဲကွာတာ။ ဒါပေမဲ့ ကျွန်တော်တို့ဟာ ကျွန်တော်တို့ကို ကျွန်တော်တို့ကိုယ့်ဥပဒေကိုယ်ကပဲ ပြဋ္ဌာန်းလို့ရတယ်လို့ ထင်နေတာ။ သိပ်ပြီးတော့ ဝမ်းနည်းစရာကောင်းပါတယ်။

တကယ်တော့ အွမ့်သိကို ပြုပြင်ဖို့ကြိုးစားတာကနေ သာသနာကို လက်ထည့်ပြုပြင်ဖို့ ကြိုးစားလာတာဟာ တော်တော်လေးကို ခေါင်းချောင်သွားပြီလို့ ပြောရမှာပဲဖြစ်တယ်။ အခန်းတွေပျက်သွားပြီ။ ဘာတ္ထရီလိုဆိုရင် အခန်းတွေပျက်သွားပြီ။ ဒါကြောင့် မေတ္တာရပ်ခံလိုပါတယ်။ အချိန် အများကြီးလည်း မယူတော့ပါဘူး။

အိမ်ထောင်တစ်ခုကို ပြုတယ်ဆိုတဲ့နေရာမှာ ရာသက်ပန် ရိုးမြေကျ ချစ်ခင်ကြင်နာယုယစွာ ဘဝသက်ဆုံးတိုင်အောင် ပေါင်းမယ်လို့ရည်ရွယ်ချက်တစ်ခုကိုထားလိုက်ကြပါ။ သူတို့ပေးလာတဲ့ ဒုက္ခရှိရင်လည်းပဲ အဲ့ဒီဒုက္ခကို သုခလို့ခံယူလိုက်ပါ။ သူ့ရဲ့ပေးလာတဲ့ ဒုက္ခကိုခံယူခဲ့တဲ့အပေါ်မှာ အလှူပေးလာမယ့်ဆဝါးဖ်အလွန်ကြီးမားပါတယ်။ ယဟ်ယာဗင်န်အက်ဆမ်သခင်က တစ်ရက် သူတို့ဇနီးမောင်နှံ နှစ်ရောက်အတူထိုင်နေခဲ့တယ်။ ဒီပညာရှင်ကြီးဟာ ကမ္ဘာကျော်ပုဂ္ဂိုလ်ကြီးဖြစ်တယ်။ တကယ့် မိုဟတ်ဒ္ဒစ် ဟာဒီးဆ်ပါမောက္ခကြီးဖြစ်တယ်။ ဒါပေမဲ့ သူ့ရုပ်ကို ကြည့်မယ်ဆိုရင် ရုပ်ကတော်တော်ဆိုးတယ်။ မျက်လုံးကိုကြည့်ရင်လည်း သူလောက်ဆိုးတဲ့ မျက်လုံးမရှိဘူး။ နခေါင်းကိုကြည့်ရင်လည်း သူလောက်အကျည်းတန်တဲ့ နှာခေါင်းမရှိဘူး။ ပါးစပ်ကိုကြည့်ရင်လည်း သူ့လောက် ကြည့်ပျော်ရှုပျော်မရှိတဲ့ နှုတ်ခမ်းမရှိဘူး။ အကုန်လုံးတစ်ခုချင်းတစ်ခုချင်းမှာ အလှအပအလွန်ကင်းမဲ့တဲ့ မျက်နှာဖြစ်တယ်။ ဒါပေမဲ့ သူရထားတဲ့ဇနီးက နတ်မိမယ်အလား သိပ်ချော သိပ်လှတဲ့ အမျိုးသမီးဖြစ်တယ်။

တစ်ရက် ဇနီးမောင်နှံနှစ်ယောက် ထိုင်နေရင်းနဲ့ သူ့ဇနီးကိုပြောတယ် မင်းလည်း ဂျန်နသီ ၊ ငါလည်း ဂျန္နသီပါတဲ့။ တော်တော်ကြီးကျယ်တဲ့ မိုဟဒ္ဒစ်ရဲ့ဇနီးသည်သာမန်တော့မဟုတ်ဘူး။ ပြောရရင်တော့ ရှည်သွားမှာ စိုးလို့ပါ။ ရှေးခေတ်မှာ ရှိခဲ့တဲ့ဇနီးသည်တွေကို ပေါ့ပေါ့တော့ မအောက် မေ့ပါနဲ့။ သူတို့တတွေဟာ ဝလီကို မှတ်ကျောက်တင်နိုင်တဲ့ အဆင့်ရှိတယ်။ ဟဇရသ်ရှိုက်ခ် နေဇာမွတ်ဒီးန် အောင်လေ့ယာလို ပုဂ္ဂိုလ်မျိုးကို မှတ်ကျောက်တင်နိုင်ခဲ့တဲ့ ပုဂ္ဂိုလ်တွေဖြစ်တယ်။ ပြောပြရင်သိပ်ရှည်သွားမှာ စိုးလို့ပါ။ ကနေ့ခေတ်ကတော့ အမျိုးသမီးမပြောပါနဲ့။ အမျိုးသားတောင် အဲဒီအဆင့်မရှိပါဘူး။

အဲ့ဒီ ဟာဒီးဆ်ပါမောက္ခရဲ့ ဇနီးဖြစ်တော့ သူကလည်းမေးတယ်။ ရှင်က လူတစ်ယောက်ကို ဂျန္နသီလို့ လွယ်လွယ်လေးပြောရအောင် ဘာအထောက်အထားနဲ့ပြောတာလဲ။ သူကပြောပြတယ်။ ငါ့လို့ ရုပ်ဆိုးလှတဲ့ အိမ်ထောင်ဘက်

တစ်ဦးကို လက်ထပ်ပေါင်းသင်းပြီး အတူနေနေတာ ဟာ မင်းအတွက် စက္ကန့်နှင့်အမျှ စိတ်ဆင်းရဲမှု တွေ့ကြုံနေရတယ်။ အဲ့ဒီစိတ်ဆင်းရဲမှုတွေကို မင်းက စွဗရ်လုပ် သည်းခံနေခဲ့တယ်။ အဲ့ဒီစွဗရ်ကို အကြောင်းခံပြီးတော့ အလ္လာဟ်က မင်းကို ဂျန္နသ် ပေးနိုင်ပါတယ်။ အေး-ထိုနည်းအတိုင်းပဲ။ ငါ့လို ရုပ်ဆိုးအကျည်းတန်တဲ့ သူတစ် ယောက်ကို ဒီလောက်ချစ်မော့လှပတဲ့ မိန်းကလေးတစ်ယောက် အလ္လာဟ်က ချီးမြှင့်ထားတဲ့အတွက် စက္ကန့်နဲ့အမျှ အလ္လာဟ်ကို ကျေးဇူးတင်နေမိတယ်။ အဲ့ဒီ ရှုကွရ်ရဲ့လမ်းကြောင်းကနေ ငါဟာဂျန္နသ်ကို ရနိုင်ပါတယ်။ ဒါကြောင့် မင်းလည်း ဂျန်နသ်သီ ငါလည်းဂျန်နသ်သီလို့ ပြောရခြင်းဖြစ်တယ်။

## "الإيمان نصفان"

အီမာန်နှစ်ပိုင်းရှိတယ်။ တစ်ပိုင်းဟာ ရှုကွရ်အလ္လာဟ်ကို ကျေးဇူးတင်ခြင်းဖြစ် တယ်။ ကျန်တစ်ပိုင်းဟာ စွဗရ်သည်းခံခြင်းသာဖြစ်တယ်။ အလ္လာဟ်အခြေ အနေကောင်းအောင် ပေးထားသလား အဲ့ဒီအပေါ်အလ္လာဟ်ကို ကျေးဇူးတင်လိုက်ပါ။ အလ္လာဟ်ဟာ စမ်းသပ်မှုနဲ့မိမိအပေါ်မှာ အဆင်မပြေတာလေးတွေများ လုပ်ပေး ထားသလား အဲ့ဒီအပေါ်မှာ စွဗရ်လုပ်လိုက်ပါ။ အဲ့ဒီ ဘာသာရပ်နှစ်ခုပဲ အိမ်ထောင် ရေးသက်တမ်းတစ်လျှောက်လုံးမှာ ဖြေရမှာ အများကြီးမဖြေရပါဘူး။ နှစ်ဘာသာ တည်းပါ။ အဲဒီနှစ်ဘာသာကို အိမ်ထောင်စုထဲမှာ ဖြေသွား၊ မိသားစုထဲမှာ ဖြေသွား ပါ။ အင်ရှာအလ္လာဟ် ကဗရ်တွင်းထဲမှာ သုံးဘာသာအောင်သွားမယ်။

ကဗရ်ထဲမှာ သုံးဘာသာဖြေပြီးသွားရင် ဖိုင်နယ်ဟရှရ်မှာ လေးဘာသာ ဖြေခိုင်းမယ်။ အင်ရှာအလ္လာဟ်ဟိုသအာလာ အောင်မှာသေချာပါတယ်။ သိပ်ခဲ ယဉ်းတဲ့ ကိစ္စမဟုတ်ပါဘူး။ ပေးလာတဲ့ အခြေအနေတိုင်းမှာ ဒါဟာသည်းခံရမလား သည်းခံလိုက်ပါ။ ဒါဟာအလ္လာဟ်ကို ကျေးဇူးတင်ရမလား ကျေးဇူးတင်လိုက်ပါ။ ဇနီးသည် တစ်ယောက်ကို သက်ဆုံးတိုင်ပေါင်းနိုင် ခြင်းဟာ အလ္လာဟ်ပေးထားတဲ့ သောင်ဖီးက်ကြောင့်ပါ။ ဒါကြောင့် ပညာရှင်တွေက အမိန့်ရှိခဲ့တာ။

### "النكاح هوالعبادة"

နေကာဟ်ဟာ အေဗာဒသ်ဖြစ်တယ်။ ပညာရှင်များက ဒါကို သူတို့တတွေမှာ ရှိနေခဲ့တဲ့ အလ္လာဟ်ပေးထားတဲ့ အသိဉာဏ်နဲ့ရှင်းပြတယ်။ အေဗာဒသ်မှန်သမျှဟာ အချိန်အကန့်အသတ်ရှိတယ်။ နမာဇ်_ သူ့အချိန်နဲ့သူ အေဗာဒသ် လုပ်လိုက်

ရတယ်။ ပြီးရင် ပြီးသွားပြီ။ အခု အေရှားအ်နမားဇ် ကျွန်တော်တို့ဖတ်ပြီးပြီ နောက် ထပ်ဖဂျရ်အချိန်အထိကြားမှာ ကျွန်တော်တို့အတွက်ဘာ ဖရ်ဇ်နမားဇ်မှ တာဝန် မရှိတော့ဘူး။ အဲဒီအတိုင်းပဲ ဇကားသ်ရဲ့ အေဇာဒသ်အချိန်ရောက်လာမယ် ပေး လိုက်မယ် တာဝန်ကျသွားမယ်။ ရိုဇာရဲ့အေဇာဒသ် ရမ်ဇာန်လရောက်လာမယ် ရိုဇာ စောင့်လိုက်မယ်။ ဒါဆိုပြီးသွားပြီ။ အဲဒီအတိုင်းပဲ ဟဂ်ျရဲ့အေဇာဒသ် တစ်သက်မှာ တစ်ခါ ဆောင်ရွက်လိုက်ပြီးသွားပြီ။ ဒါပေမဲ့ နေကာဟ်ရဲ့ အေဇာဒသ်ဟာ အသက် ထက်ဆုံး ဒီဇနီးသည်နှင့် ဒီခင်ပွန်းသည် အိမ်ထောင်ရှင်အဖြစ် လက်တွဲနေသမျှ ကာလပတ်လုံး အေဇာဒသ်ထဲမှာရှိနေတယ်။ ဒီအေဇာဒသ်ဟာ သိပ်ဆန်းကျယ် တယ်။ အဲ့ဒါကြောင့် စွဟာဗဟ်သာဝကများက ငါ့သက်တမ်းမှာ နောက်ထပ် သုံးရက်လောက်များ ကျန်ရှိသေးရင် ငါအိမ်ထောင်ပြုချင်သေးတယ်တဲ့။ ဘာကြောင့် လဲ ဆိုတော့ ဒီအေဇာဒသ်ထဲမှာ မိမိရဲ့ထွက်သက်ကို အလ္လာဟ်ထံပြန်လည် အပ်နှင်း လိုက်ချင်တယ်။ အေဇာဒသ်လုပ်ရင်းနဲ့ အလ္လာဟ်ဆီမှာ ထွက်သက်အပ်လိုက်ရတာ ဘယ်လောက်မြင့်မြတ်မလဲ။ ဒါကိုနားလည်တယ်ဆိုရင် ဇနီးသည်ဘယ်လောက်ပဲ ဆိုးပါစေ…

**သွလားက်ဆိုတဲ့စကားကို ဝေါဟာအဖြစ်နဲ့တောင်**

**ဘယ်တော့မှ ယူလာမှာမဟုတ်ဘူး။**

ဒါကြောင့်မလို့ အိမ်ထောင်ပြုမည့်ပုဂ္ဂိုလ်တိုင်းဟာ မိမိတို့ရဲ့ဇနီးကို အသက် ထက်ဆုံး ချစ်ခင်ပြီးတော့ ရာသက်ပန်ရိုးမြေကျ ပေါင်းသင်းနေထိုင်သွားမယ်ဆိုတဲ့ စိတ်ဓာတ်ကလေးနဲ့ အိမ်ထောင်ပြုသွားမယ်ဆိုရင် အဲ့ဒီအိမ်ထောင်ရေးဟာ အလွန် သာယာတဲ့ အိမ်ထောင်ရေးတစ်ခု ဖြစ်လာနိုင်ပါတယ်။ အဲ့ဒီလို အေဇာဒသ်တစ်ခုကို ဆောင်ရွက်ရင်းနဲ့ အသက်ထွက်သွားခဲ့တယ်ဆိုရင်တောင် အလ္လာဟ်ထံပါးမှာ အေ ဇာဒသ်လုပ်သူအဖြစ်နဲ့ ကွယ်လွန်ရတဲ့အပေါ် မြင့်မြတ်တဲ့ အကျိုးကုသိုလ်ရမယ်လို့ မျှော်လင့်ပါတယ်။ အဲ့ဒီ အိမ်ထောင်တစ်ခုမှာ ကြုံတွေ့ခဲ့ရသော စားဝတ်နေရေးကိစ္စ၊ သားရေးသမီးရေးကိစ္စ၊ မိသားစုအရေးကိစ္စ ရုန်းကန်လှုပ်ရှား၊ သည်းခံပြီးတော့ အလ္လာဟ်ပေးသမျှနဲ့ ကျေနပ်သွားခဲ့မယ်ဆိုရင် အင်ရှာအလ္လာဟ်ဟို့သအာလာ အဲဒီအိမ်ထောင်ရေးဟာ လောကမှာတင်ပင် ဂျန္နသ်ရဲ့အငွေ့အသက်တွေ ရလာနိုင် စရာ အကြောင်းရှိပါတယ်။ အလ္လာဟ်အရှင် ကျွန်တော်တို့တတွေအားလုံးကို လော ကမှာတင် ဥယျာဥ်ဘုံနန်းတစ်ခုတည် ဆောက်နိုင်တဲ့ စွမ်းအားချီးမြှင့် ပေးသနား တော်မူပါစေ။ဝအာခေ့ရိုဒအ်ဝါးနာ အနင်လ်ဟမ်းဒို လစ်လားဟေ့ ရဗ်ဗစ်အားလမီးန်။

မော်လမြိုင်မြို့၊ ၂၅၊ ၁၁၊ ၂၀၁၈

ﷺ

وَاللَّاتِي تَخَافُونَ نُشُوزَهُنَّ فَعِظُوهُنَّ وَاهْجُرُوهُنَّ
فِي الْمَضَاجِعِ وَاضْرِبُوهُنَّ فَإِنْ أَطَعْنَكُمْ فَلَا تَبْغُوا عَلَيْهِنَّ سَبِيلًا.
(سورة النساء_الآية ٣٤)

أَنَّ النَّبِيَّ صَلَّى اللّٰهُ عَلَيْهِ وَسَلَّمَ قَالَ:
«لَوْ كُنْتُ آمِرًا أَحَدًا أَنْ يَسْجُدَ لِأَحَدٍ لَأَمَرْتُ
الْمَرْأَةَ أَنْ تَسْجُدَ لِزَوْجِهَا، لِمَا عَظَّمَ اللّٰهُ مِنْ حَقِّهِ عَلَيْهَا»
[ص: ٢٢_ الآداب للبيهقي]

**လေးစားအပ်သောလူကြီးမင်းများခင်ဗျား....**

ကျွန်တော်တို့မှာ ဆိုရိုးစကားတစ်ခုရှိတယ်။ ကြားပါများရင် ယဉ်တယ်။ မြင်ပါများရင် ငယ်တယ်။ စကားတွေ ထပ်ကာထပ်ကာကြားလာပြီဆိုရင် အဲ့စကားဟာ ဘယ်လောက်ပဲလေးနက်တဲ့ စကားဖြစ်ပါစေ နားယဉ်သွားပြီး ဆန်းကြယ်တယ်လို့ မထင်မိကြတော့ဘူး။ ထိုနည်းအတိုင်း မြင်နေကျအရာဟာ အကြိမ်ရေများလာပြီဆိုရင် ဘယ်လောက်ပဲကြီးမားပါစေ အကြိမ်ကြိမ်မြင်နေရတော့ သေးငယ်သွားတယ်လို့ မှတ်ယူကြတယ်။ ဆိုလိုတဲ့သဘောက အိမ်ထောင်သက်ရဲ့ ပထမသက်တမ်းလေးမှာတော့ သူ့အပေါ်မှာထားတဲ့မေတ္တာတွေကလည်း ရွှန်းရွှန်းဝေလို့၊ ကိုယ့်အပေါ်မှာထားတဲ့ မေတ္တာတွေကလည်း ရွှန်းရွှန်းဝေလို့၊ ကြည်နူးလို့မဆုံး၊ ပျော်မြူးလို့မဆုံး တစ်တွဲတွဲနဲ့ပျော် နေကြပါတယ်။ ဒါပေမဲ့ အချိန်လေးကြာလာပြီဆိုတဲ့ အခါကျတော့ သူ့အထင်မကြီး၊ ကိုယ့်အထင်မကြီး၊ အတူနေရတဲ့သူတွေ အချင်းချင်းဆိုတော့ အတွင်းသိ၊ အစင်းသိပေါ့၊ အဲဒီကျတော့ အဝေးကကြည့်ပြီး မှိုင်းတိုင်းတိုင်းထင်ခဲ့တဲ့သစ်ပင်က အခု အပင်အောက်ဝင်ကြည့်တော့ ကျိုးတို့ကျဲတဲ

ဆိုတာ သဘောပေါက်လာကြတယ်။ အဲဒီအချိန်မှာ ပြဿနာစတော့တာပါပဲ။ အဲ့တော့ ကျွန်တော့် ကို ပြောခိုင်းတာက အဲ့ဒီပြဿနာအကြောင်းဖြစ်နေတယ်။

ပြဿနာအကြောင်းမပြောခင်၊ ပြဿနာမဖြစ်အောင် ရှောင်တဲ့နည်းကိုပဲ ကျွန်တော်ပြောချင်ပါတယ်။ ကုသတဲ့နည်းကတော့ ပါရဂူတွေကုသလိမ့်မယ်။ ကျွန်တော်ကတော့ ကြက်ခြေနီအဆင့် ရှိတဲ့အတွက်ကြောင့် ကျွန်တော်ကာကွယ်တဲ့နည်းပဲ ပြောချင်ပါတယ်။ နောက်မှာပါရဂူကြီးတွေ ရှိပါတယ်။ ကုသတဲ့နည်းလမ်းတွေ ပြောပါလိမ့်မယ်။ မရရင်တော့ ဖြတ်တောက်ပစ်လိုက်လိမ့်မယ်။

အဲ့တော့ ကာကွယ်တဲ့နည်းဆိုတာ ကျွန်တော်တို့နားလည်ထားရမှာကိုက အပွင့်လင်းဆုံး ပြောရရင် သူနဲ့ကိုယ် မတူတဲ့အရာနှစ်ခုပေါင်းစပ်ထားခြင်းဖြစ်တယ်။ မတူပါဘူးဆိုတဲ့နေရာမှာ ဒီထက်မတူတာ မရှိတော့ဘူး။ ဒါမတူဆုံးပဲ။ ဘယ်လိုမှ မတူတဲ့အရာနှစ်ခုပေါင်းစပ်ထားခြင်းကို ဘယ်လိုလုပ်ပြီးတော့ တူအောင်လုပ်ကြမလဲ။ သူတို့တစ်တွေ နှစ်ကိုယ့်တစ်စိတ် ဘယ်လို လုပ်ဖြစ်ကြမလဲ။ ပညာရှင်များ တင်ပြကြပါတယ်။ တကယ်တော့ ဇနီးမောင်နှံဆိုတာက နှစ်ယောက်ပေါင်းပြီးတော့ တစ်ဘဝ ထူထောင်နေတာ။ စွယ်တော်ဆိုတဲ့အရွက်ဟာ နှစ်လွှာပေါင်းမှ တစ်ရွက် မည်တာဖြစ်တယ်။ ဒါဟာ ရက္ခဗေဒသဘောပဲ။ အဲ့တော့ဒီအိမ်ထောင်ရေးကို ကျွန်တော်တို့ တတွေကရာသက်ပန်ပေါင်းသင်းနိုင်ရေးအတွက် ဘယ်လိုလုပ်ရမလဲ ဆိုတာကို နားလည်ရမယ်။ မတူတာနှစ်ခုရဲ့ပေါင်းစပ်မှုမှာ နားလည်မှုတစ်ခုက ရှိကို ရှိထားမှဖြစ်မယ်။ သာဓကအနေနဲ့ ယောကျ်ားက အာလင်မ်၊ ပညာတတ်ဖြစ်ပြီး အမျိုးသမီးက တစ်ဦးတည်းသော သမီးဖြစ်သော်လည်း ပညာအရာဘာ အခြေခံမှုမရှိဘူး။ ပညာတတ်အာလင်မ်ဆိုပြီး လေးစားလို့ တစ်ဦးတည်းသောသမီးကို လက်ထက်ပေးလိုက်ခြင်းဖြစ်တယ်။ အဲ့တော့ဘာသာရေးအခြေခံမှာ ဒီပုဂ္ဂိုလ်က ဆယ်မှတ်အပြည့်၊ အမျိုးသမီးက တစ်မှတ်၊ တစ်နဲ့တစ်ဆယ် ဘယ်လိုလုပ်ပြီး နီးစပ်မလဲ။ ဒီနေရာမှာ နားလည်မှု ထားဖို့ဆိုတာအဲ့တာပဲ။

တစ်ဆယ်သမားဖြစ်တဲ့ ခင်ပွန်းသည်က မိမိဇနီးသည်လည်း မိမိလို တစ်ဆယ်ဖြစ်ရမယ်လို့ ခံယူထားရင် ဘယ်လိုမှ နီးစပ်ဖို့မရှိပါဘူး။ အဲ့တော့ ဘာလုပ်ရမလဲ ဆိုတာ သူလျှော့ပေးပါ။ ငါက တစ်ဆယ်ဖြစ်ရတယ်ဆိုတာ ငါ့ကို ငယ်စဉ်ကတည်းက ဒီလိုသာသနာရေးကျောင်းကိုပို့ပြီး သင်ယူခွင့်ပေးခဲ့လို့၊ ဒီလိုအာလင်မ်ကြီးဖြစ်အောင် သင်ယူခွင့်ပေးခဲ့လို့ ငါက ဒီအဆင့် အမှတ်တစ်ဆယ် အပြည့်ရနေတယ်။ အဲ့တော့

ဇနီးသည်က မွေးကတည်းက ကလေမာဟ်တစ်ခုဖတ်တတ်တာ ကလွဲပြီး သာသနာရေးအသိပညာ ဘာမျှမရှိဘူးဆိုတော့ ဘယ်လိုလုပ်ပြီး အမှတ်တစ်ဆယ် အပြည့်ရမလဲ။ ဒီတော့ ကျွန်တော့်မှာ တာဝန်တစ်ခုရှိလာပြီ။ အနည်းဆုံးအဆင့်တော့ တစ်ကနေ ငါးဖြစ်လာအောင် သူ့ကို ကျွန်တော်ကြိုးစားရမယ်။ ကျွန်တော်ကလည်း တစ်ဆယ်ကနေ ငါးဖြစ်ရင် ကျေနပ်ရမယ်။ အဲလိုဆုံမှတ်လေး တစ်ခုထားပြီးတော့ ဒီဇနီးမောင်နှံနှစ်ဦး ပေါင်းစပ်ကြမယ်ဆိုရင် လမ်းခွဲရမယ်ဆိုတာ ဖြစ်လာမှာမဟုတ်ပါဘူး။ ကျွန်တော်က လမ်းမခွဲရတဲ့နည်းကို ပြောမှာပဲဖြစ်တယ်။

အဲ့တော့ လမ်းမခွဲရဖို့ဆိုတာ ကိုယ်ကလည်း လျှော့သင့်တာ လျှော့ပါ၊ သူက လည်း ကြိုးစား သင့်တာ ကြိုးစား ပါ။ သူရော ကိုယ်ရော ဆုံမှတ်လေးတစ်ခုမှာ နားလည်းမှုအပြည့်နဲ့ ဆုံစည်းနိုင်မယ်ဆိုရင် ဘဝတစ်ခုကို ပျော်ပျော်ကြီး တည်ဆောက်နိုင်မှာ ဖြစ်ပါတယ်။ အဲ့တော့ အဓိကက မတူညီတာနှစ်ခုကို ပေါင်းစပ်တဲ့နေရာမှာ ဆုံမှတ်တစ်ခုကိုထားပြီး အဲ့ဒီဆုံမှတ်အတိုင်း ဘဝတစ်ခုကို တည်ဆောက်ကြမယ်ဆိုရင် သာယာတဲ့အိမ်ထောင်ရေးဖြစ်လာမှာပဲဖြစ်တယ်။ ဒါဟာ အမျိုးသမီးရဲ့အနိမ့်အဆင့်အတန်းရှိတဲ့ သာဓကကို ပြောပြခြင်းဖြစ်တယ်။ တစ်ခါတစ်ခါမှာ အမျိုးသားရဲ့အနိမ့်အဆင့်အတန်းရှိတဲ့ အိမ်ထောင်ရေးလည်း ရှိတယ်။ အဲ့ဒီအခါကျရင်လည်း အမျိုးသမီးက အမျိုးသားကို နားလည်ပေးရမယ်။ အမျိုးသားလုပ်သူကလည်း အမေ့အိမ်ကတည်းက ငါဒီ အတိုင်းနေလာတာ၊ ဒီလိုပဲနေမှာပဲဆိုရင်တော့ ဒါဟာ သဘာဝမကျဘူး။ အမေ့အိမ်ကတော့ အမေ့အိမ်ပါပဲ။ ဒါက အခုအမေ့အိမ်မဟုတ်ဘူး။ ကိုယ်အိမ့်၊ ကိုယ့်ယာ၊ ကိုယ့်မိသားစု၊ ကိုယ့်သားသမီးနဲ့နေရတာ။ အဲ့ဒီလိုအခြေအနေမျိုးမှာ အမျိုးသားက မိမိရဲ့ဆိုးသွမ်းမှုတွေ၊ လမ်းဘေးစရိုက်တွေကို စွန့်ပယ်လိုက်ရမယ်။ အမှတ်တစ်ဆယ် အပြည့်အဝ မလုပ်နိုင်ဘူးဆိုရင်တော့ ဆုံမှတ်တစ်ခုဖြစ်တဲ့ အမှတ်ငါးထိတော့ တိုးတက်အောင် ကြိုးစားရမယ်။ အမျိုးသမီးကလည်း ဒါကိုကျေနပ်ပေးရမယ်။ ဒါဆိုရင်သာယာတဲ့ အိမ်ထောင်ရေးတစ်ခုဖြစ်လာပါမယ်။

ဒါပေမဲ့လည်း စောစောက ကျွန်တော်ပြောသလို၊ ကြွားပါများတော့ ယဉ်တယ်၊ မြင်ပါများတော့ငယ်တယ် ဆိုသကဲ့သို့ ဒီအိမ်ထောင်ရေးဟာ ကြာလာတော့ ပူညံပူညံဖြစ်လာပါတော့တယ်။ စောစောကတော့ တစ်ယောက်နဲ့တစ်ယောက် ကြည်နေရာကနေ ကြာလာတော့ ကျိုး လာတယ်။ ကျိုး ကျိုး အသံတွေ ထွက်လာတယ်။

ကြည်နေရာကနေ ကျွီ ကျွီ အသံတွေထွက်လာပြီ ဆိုတဲ့အခါကျတော့ အဲ့ဒီမှာ ဘာလုပ်ကြမလဲ။ တစ်ယောက်ကိုတစ်ယောက် နားလည်မှုထားပြီးတော့မှ သူ့ကို ကိုယ်ထိန်းသိမ်း၊ ကိုယ့်ကို သူထိန်းသိမ်းရမယ်။ ထိုနည်းအတိုင်းပဲ မိမိမှာပြုပြင်သင့်တာတွေအားလုံးကို ပြုပြင်ရမယ်။ သူကလည်း သူ့ရဲ့လိုအပ်ချက်တွေကို ခံစားသိမြင်ပြီး ပြုပြင်လာရမယ်။

စောစောက လမ်းအပြည့်လျှောက်လာတဲ့ဘဝတွေ ဒါတွေ ဖယ်ထားလိုက်တော့။ စောစောက အကြိုအကြားမှာ လျှောက်လာခဲ့တဲ့ ဘဝတွေ ဒါတွေ ဖယ်လိုက်တော့။ အိမ်ထောင်သည် တစ်ယောက်ဖြစ်လာခဲ့ပြီ၊ သားသမီးတွေရဲ့ ဖခင်ကောင်း တစ်ယောက်ဖြစ်လာခဲ့ပြီ ဆိုတဲ့အခါကျ တော့ကိုယ်က အဲလိုမကောင်းတဲ့ဟာတွေကို ရှောင်ရတိမ်းရပါလိမ့်မယ်။

အဲ့တော့ ဘယ်လိုပဲမဆို ဖြစ်သင့်ဖြစ်ထိုက်တဲ့ အနေအထားတစ်ခုကို တင်ပြခြင်းသာဖြစ်တယ်။ ဖြစ်သင့်ဖြစ်ထိုက်တာတွေထဲမှာ တစ်ခါတစ်ခါကျရင် မမျှော်လင့်ထားတာတွေလည်း ဖြစ်လာ တတ်ပါတယ်။ စောစောက တစ်ဦးကိုတစ်ဦး မျှော်မှန်းထားခဲ့တာ ဒါမဟုတ်ဘူး။ ကိုယ့်ဇနီးကို မျှော်မှန်းထားခဲ့တာက အိမ်ထောင်ထိန်းသိမ်းမှု အပြည့်အဝရှိမယ်။ လိမ်မာရေးခြားမှုရှိမယ်။ နှုတ်မှုရေးရာမှာ ကြွယ်ဝမှုရှိမယ်။ မိမိ မိဘအသိုင်းအဝိုင်းအပေါ်မှာ သဘောထားကြီးစွာ ပြုမူဆက်ဆံမယ်။ ထိုနည်းအတိုင်းပဲ သူဘက်မှာလည်း မိမိအပေါ်အများကြီး မျှော်လင့်ထားတယ်။ အဲ့ဒီနှစ်ဦးနှစ်ဖက် မျှောက်လင့်ချက်တွေဟာ ဖြစ်ချင်တဲ့အတိုင်းအတာအတိုင်း ဖြစ်မလာတဲ့အခါကျတော့ စောစောကပြောခဲ့သလိုပဲ ကြည်နေရာကနေ ကျွီတဲ့ဘဝကို ရောက်လာခဲ့ကြတယ်။

အဲဒီလိုရောက်လာခဲ့ပြီဆိုတော့ ကျွန်တော်တို့မှ ဖြစ်တာလားဆိုတော့ မဟုတ်ပါဘူး။ တော်ဝင်မိသားစုလို့ခေါ်တဲ့ နှစ်ဘဝကျေးဇူးတော်ရှင် တမန်တော်မြတ်ﷺရဲ့မိသားစုအတွင်းလည်း ဖြစ်ခဲ့ပါတယ်။ ဒါတွေက တစ်နေ့တစ်ချိန်မှာ ဒီလိုအဖြစ်မျိုးနဲ့ ကြုံလာပြီဆိုရင် ဘယ်လိုပြုမူဆောင်ရွက်ရမယ်ဆိုတာကို သိရှိစေရန်အတွက် သင်ခန်းစာတစ်ခုအနေနဲ့ ဖြစ်ပေါ်စေခဲ့တာပါ။

တစ်ရက် တမန်တော်မြတ်ﷺနှင့်မိခင်ကြီးအာအေရှာဟ်ؓသခင်မတို့ တစ်ယောက်နဲ့တစ်ယောက် အခန့်မသင့်ဖြစ်ပြီးတော့ ငြိုငြူစူစူ ဖြစ်နေကြတယ်။ အဲ့ဒီလိုဖြစ်နေတဲ့အချိန်မှာပဲ တစ်ဦးသောပုဂ္ဂိုလ် တမန်တော်မြတ်ﷺထံ စွန်ပလွံသီးတစ်အိပ်

လက်ဆောင်လာပေးသွားတယ်။ အဲ့ဒီစွံပလွံသီးအိပ်ကို တမန်တော်မြတ်ﷺက အာအေရှာ်သခင်မရဲ့ရှေ့မှာချပေးပြီး အို_အာအေရှာ် အလ္လာဟ့်နာမည် တသပြီးတော့ ဗစ်မစ်လ္လာဟ်ဖတ်ပြီး စားလိုက်ပါတော့လို့ အမိန့်ရှိတယ်။ အာအေရှာ်ﷺသခင်မက ဘာပြန်ဖြေလဲဆိုတော့_.. ဘယ်တုန်းက အပ့်ါနာမည်တပြီး စားခဲ့ဖူးလိုတုန်းတဲ့................

ဒါတော်ဝင်မိသားစုထဲမှာဖြစ်ခဲ့တဲ့ အဖြစ်အပျက်။ ကျွန်တော်တို့ထဲမှာလည်းဖြစ်မှာပဲ။ ဒါပေမဲ့ တမန်တော် ဘယ်လိုပြန်လည်ဆက်ဆံခဲ့လဲ။ ဘယ်လိုနည်းလမ်းကိုကျင့်သုံးခဲ့လဲဆိုတာကို ကျွန်တော့်အတုယူရမယ်။ တမန်တော်မြတ်ﷺက အာအေရှာ်ﷺသခင်မကို အဲလိုပြောတဲ့အပေါ် နဗန်ထကျင်းခဲ့တာလား။ လက်နက်ကြီးသုံးပြီးသွလားက်ပေးကွာရှင်းလိုက်တာလား။ မဟုတ်ပါဘူး။ တမန်တော်မြတ်ﷺက ပြုံးနေလိုက်တယ်။ ဘာမှုပြန်မပြောခဲ့ဘူး။ ဒါဟာအမျိုးသမီးတို့ရဲ့ သဘာဝဖြစ်တယ်။ အပြစ်မြင်စရာမဟုတ်ဘူးလို့ တမန်တော်က စံနမူကောင်းကို မီးမောင်းထိုးပြခဲ့တယ်။

တစ်ရက် တမန်တော်မြတ်ﷺအိမ်တော်သို့ သာဝကကြီး အိုမရ် ﷺ ရောက်လာခဲ့တယ်။ အိမ်ထဲမှာ ဇနီးသည်တွေက တမန်တော်မြတ်ﷺကို ပူညံပူညံနဲ့အသုံးစရိတ်တိုးတောင်နေကြတယ်။ သာဝကကြီးအိုမရ်ﷺကိုလည်းမြင်ရော အသံတိပ်သွားကြတယ်။ သာဝကကြီးအိုမရ်ﷺက "ဘယ်လိုဖြစ်ကြတာလဲ၊ စောစောကတော့ပူညံပူညံနဲ့ ဆူညံနေကြ တယ်၊ ငါလည်းရောက်လာရော အသံတိပ်သွားတယ်၊ ဘာလဲ ငါက တမန်တော့်ထက် ပိုမြတ်နေလို့လား"လို့ မေးလိုက်တယ်။ အဲ့ဒီအချိန်မှာ မိခင်ကြီး အာအေရှာ်ﷺသခင်မက ဘာတုန့်ပြန်လဲဆိုတော့ ဒို့ယောက်ျားက သဘောထားကြီးတယ်။ အဲ့တော့ ဒို့အရေးဆိုသင့်တာ ဆိုတယ်။

ဒါပဲဖြစ်တယ်။ ကိုယ်တော်ကလည်း မိန့်ခဲ့တယ်။ သဘောထားကောင်းတဲ့အမျိုးသားတွေကို အမျိုးသမီးတွေက နိုင်တတ်ကြတယ်ဆိုတာ ဒါပဲဖြစ်တယ်။ နိုင်တတ်ပါတယ်။ သူတို့တတွေဟာ စကားနဲ့ အနိုင်ယူတာပါ။ သူတို့ရဲ့ ခန္ဓာကိုယ်ဖွဲ့စည်းပုံအရ ယောက်ျားတစ်ယောက်ကို ဘယ်လိုမှ အနိုင်ယူလို့မရဘူး။ အဲဒါကနားလည်ပေးရမယ်။ အော်ဒီလောက်တော့ အနိုင်ယူပြောတတ်ကြတာ သူ့အခွင့်ရေးပါလား၊ ကိုယ်တော်တောင်နားလည်းပေးခဲ့တာ ဒို့လည်းနားလည် ပေးရမယ်ဆိုပြီး မှတ်ယူရမယ်။

အဲ့ဒီအတိုင်းပဲ ကုရ်အာန်ကျမ်းတော်မြတ်မှာ အလ္လာဟ်အရှင်မြတ်အမိန့်ရှိထား တော်မူ တယ်။

وَاللَّاتِي تَخَافُونَ نُشُوزَهُنَّ فَعِظُوهُنَّ وَاهْجُرُوهُنَّ فِي الْمَضَاجِعِ وَاضْرِبُوهُنَّ
فَإِنْ أَطَعْنَكُمْ فَلَا تَبْغُوا عَلَيْهِنَّ سَبِيلًا.

အိမ်ထောင်ရေးမှာ ဇနီးသည်တွေဟာ မင်းတို့ရဲ့အမိန့်ကို မနာခံဖီဆန်လာခဲ့ သည်ရှိသော် မင်းတို့တတွေ ဘာလုပ်ကြမလဲ။ နံပတ်(၁)_ သူတို့ကို ကောင်းကောင်း မွန်မွန် ဟောပြောနားချပေး။ သဘောတရားရေးရာတွေကို နားလည်အောင် သူ့ အပေါ်မှာ ပို့ချပေးပါ။ အဲ့ဒီအချိန်မှာ ကျွန်တော်တို့ဟာ ငါဒီလောက်ကောင်းရဲ့သားနဲ့ ငါ့အပေါ်မှာ ဒီလိုဆက်ဆံရချည်လားဆိုပြီး အဲ့ဒီလိုချက်ခြင်း ဆုံးဖြတ်ချက်မချပါနဲ့။ အဲ့ဒီဇနီးသည်အပေါ်မှာ ကျွန်တော်ဆုံးဖြတ်ချက်ချရမှာက အော်_သူ့ကိုငါ ပဲ့ပြင် ဆုံးမပေးဖို့လိုနေပြီ၊ နားချဖို့လိုနေပြီလို့သာ ဆုံးဖြတ်ချက်ချရမယ်။ အဲ့တော့ ချိုသာ နာပျော်ဖွယ်ကောင်းတဲ့ စကားလေးတွေနဲ့ သူလက်ခံနိုင်လောက်တဲ့ အကြောင်း အရာလေးတွေကို ပြောပြ ပြီး ဆုံးမပဲ့ပြင်ရမယ်။ တနည်းပြောရမယ်ဆိုရင် သူ့ကို ဘာသာရေးလမ်းကြောင်းပေါ်မှာ တင်ပေးရမယ်။ အမျိုးသမီးတစ်ယောက်ဟာ အမျိုးသားရဲ့အမိန့်ကို ဘယ်လိုနာခံရမယ်။ နာခံတဲ့အပေါ်မှာ ဘယ်လိုကုသိုလ် တွေရမယ်ဆိုတဲ့ အကြောင်းအရာတွေ၊ ဖြစ်စဉ်တွေကို အများကြီးသူ့ကို ပြောပြရ မယ်။ တစ်နေ့နည်းနည်း တစ်နေ့နည်းနည်း ပြောပြ။ နေ့တိုင်းပြောပါ။ နောက်ဆုံး ဘယ်လောက်ထိ ပြောရမယ်ဆိုရင် တမန်တော်မြတ်ﷺရဲ့ မိန့်ခွန်းရှိတယ်။

«لَوْ كُنْتُ آمِرًا أَحَدًا أَنْ يَسْجُدَ لِأَحَدٍ لَأَمَرْتُ الْمَرْأَةَ أَنْ تَسْجُدَ لِزَوْجِهَا،
لِمَا عَظَّمَ اللَّهُ مِنْ حَقِّهِ عَلَيْهَا» [ص:٢٢_ الآداب للبيهقي]

အကယ်၍ လူသားတစ်ဦးဦးကို စဂျ်ဒဟ်ပြုဦးချရန် အမိန့်ပေးခွင့်ရှိခဲ့မယ်ဆိုရင် ဇနီးသည်များ ကိုယ့်ယောကျ်ားကို စဂျ်ဒဟ်လုပ်ပါလို့သာ အမိန့်ပေးချင်ပါ တယ်။

အဲ့ဒီလိုအမိန့်မျိုး အလ္လာဟ်အရှင်မြတ်ဘက်တော်က အမိန့်ပေးရန် အခွင့်မရှိး မြှင့်ခဲ့လိုသာ အမိန့်မပေးခဲ့ခြင်း ဖြစ်တယ်။ အဲ့ဒီလောက် ခင်ပွန်းသည်ရဲ့ အဆင့် အတန်းက မြင့်မားတယ်။ ဒါကို နားလည်အောင် သဘောပေါက်လာ အောင်ပြောရင် သူလည်းပဲ တစ်နေ့မဟုတ်တစ်နေ့ နားလည်လာပါလိမ့်မယ်။

အဲ့ဒီအဆင့်မှာ မရဘူးဆိုရင် ဒုတိယအဆင့်ကဘာလဲ။ အထင်နဲ့တော့ မရမ်းပါနဲ့။ သူဗီဆန်လာတာကို တကယ်သိလာပြီဆိုမှ အသုံးပြုရမှာဖြစ်တယ်။ အဲ့ဒါကတော့ အိပ်ယာခွဲသိပ်ပါတဲ့။ ဒီမှာလည်း ပညာရှင်များ အမိန့်ရှိတယ်။ အိပ်ယာခွဲသိပ်ဖို့ပြောတာ သူတစ်ကုတင် ကိုယ်တစ်ကုတင် ခွဲအိပ်ဖို့ပြောတာ မဟုတ်ပါဘူး။ တစ်ကုတင်တည်းမှာပဲ ကျောပေးအိပ်လို့ ပြောခြင်းဖြစ်တယ်။ သိပ်ရှင်းပါတယ်။ တကယ်နုနည့်ညှံ့သိမ်သိမ်မွေ့မွေ့နဲ့ အိမ်ထောင်ရေး တစ်ခုတည်ဆောက်တဲ့ နေရာမှာ လိုအပ်တဲ့လိုအပ်ချက်တွေကို တစ်ခုစီတစ်ခုစီ အသေးစိပ်တင်ပြပြီး သာသနာက ကျွန်တော်တို့ကို ညွှန်ပြနေခြင်းဖြစ်တယ်။ ကျွန်တော်တို့ မသိတာက ကျွန်တော်တို့ အပိုင်းဖြစ်တယ်။ သာသနာကတော့ အလေးနက်ထားပြီး ကျွန်တော်တို့ကို ညွှန်ပြနေတယ်။ အဲ့တော့ အိပ်ယာတစ်ခုထဲမှာ ကျောပေးပြီးအိပ်လိုက်။

အဲဒီအချိန်မှာ ဇနီးသည် သဘောပေါက်သွားပါလိမ့်မယ်။ အော်_ငါရဲ့ ခင်ပွန်းဟာ ငါ့အပေါ်မှာ တစ်စိမ်းဆန်လာပြီပဲ၊ ငါ့အပေါ်မှာ စိတ်ဆိုးနေပြီပဲ၊ ငါဘာများအမှားလုပ်ထားပါလိမ့်၊ ငါ့ရဲ့ခင်ပွန်းစိတ်ငြိုငြင်အောင် ဘယ်လိုကိစ္စကို ကျူးလွန်မိပါလိမ့်လို့။ နောင်တရမိလိမ့်မယ်။ အဲ့လိုနောင်တရပြီး သူ့ရဲ့အမှားကို ပြုပြင်လိုက်ပြီဆိုရင်တော့ အမျိုးသားဖြစ်တဲ့ ခင်ပွန်းသည်ဟာ သူ့အပေါ်မှာထပ်ပြီး စိတ်ဆိုးအပြစ်တင်လို့ မရတော့ပါဘူး။ သူ့ကို နားလည်ပေးခွင့်လွှတ် လိုက်ရမယ်။

အဲ့လိုမဟုတ်ဘဲ ဇနီးဖြစ်သူက နောက်မဆုတ်သေးဘူး မပြင်သေးဘူး၊ မာန်တင်းထားတုန်း ပဲဆိုရင်၊ ကိုယ့်ကို စိန်ခေါ်လာခဲ့ပြီဆိုရင် နောက်တစ်ဆင့် တက်ရတော့မယ်။ ဒါကတော့ ပိုဆိုးသွား ပြီ။ အဲ့ဒီအဆင့်ကတော့ မျက်နှာကလွှဲပြီး ကျန်တဲ့နေရာကို မနာကျင်အရာမထင်အောင် ရိုက်ရမှာပဲဖြစ်တယ်။ သဘောက မင်းနဲ့ကတစ်ဆင့်တက်လာပြီ မင်းနဲ့ငါလမ်းခွဲဖို့ အဆင့်ထိရောက်တော့မယ်ဆိုပြီး သတိပေးတဲ့အနေနဲ့ အဒီအချိန်မှာရိုက်ပါ။ ရိုက်တဲ့အခါမှာလည်း နာကျင်အောင်၊ တစ်သက်မမေ့လောက်အောင်၊ ကျိုးအောင်၊ ပွဲအောင်၊ သွေးထွက်အောင် ဒါတွေ လုံးဝမလုပ်ရဘူး။ အထူးသဖြင့် မျက်နှာကို လုံးဝမရိုက်ရဘူး။ တမန်တော် အမိန့်ရှိတယ်။ ကျွန်ကိုရိုက်သလို ဇနီးသည်ကို လုံးဝမရိုက်ပါနဲ့။ မိခင်ကြီးအာအေရှာ်သခင်မ အမိန့်ရှိတယ်။ တမန်တော်မြတ်ﷺဟာ ကျွန်မကိုသာ ချစ်လွန်းလို့မဟုတ်ပါဘူး။ ကျွန်မအပါအဝင် ဘယ်ဇနီးသည်ကိုမျှ တမန်တော်မြတ်ﷺက လက်မရွယ်ခဲ့ဘူးပါ

ဘူး။ အဲ့တော့ ကိုယ်တော့်ရဲ့ စံနမူနာက ဘယ်ဇနီးသည်ကိုမျှ လက်မရွယ်ခဲ့ဘူး။ လက်ရွယ်ရမယ့် ဇနီးသည်လည်း မပါခဲ့လို့ပေါ့။

အခုပါလာပြီဆိုရင်တော့ ရိုက်သင့်သလောက်သာ ရိုက်ပြီးဆုံးမရမယ်။ အဲ့ဒီ အဆင့်မှာလည်း ဇနီးသည်ဟာ ပြုပြင်ပြောင်းလဲခြင်း ဖြစ်မလာဘူးဆိုရင်တော့။ နောက်တစ်ဆင့်တက်ရမယ်။ အဝိကာဒ်အဆင့်ကနေ အနီကာဒ်ပြရတော့မယ့် အခြေအနေကိုရောက်နေပြီ။ ကွင်းထဲက ထုတ်ပစ်ရ တော့မယ့်အနေအထားရောက် နေပြီ။ သို့သော်လည်း အလျင်စလို မလုပ်လိုက်ပါနဲ့။ ဆုံးဖြတ် ချက်ကို အလျင်အမြန် မချလိုက်ပါနဲ့။ ဒိုင်လူကြီးတွေ ခေါ်ပါဦး။ ဒိုင်လူကြီးကတော့ နှစ်ဘက်မိဘတွေပဲဖြစ် တယ်။ နှစ်ဘက်မိဘတွေ ခေါ်ပြီးညှိနှိုင်းပါ။ နှစ်ဘက်မိဘကလည်း သူတို့နှစ်ယောက် ပြန်လည် ပေါင်းသင်းရေးကို ဦးတည်ပြီး ညှိနှိုင်းပေးပါ။ အင်မတန်အရေးကြီးတယ် မိဘတွေဟာ။ ပေါင်းသင်းရေးကိုသာ ဦးတည်ပြီးတော့ ပြောရမှာဖြစ်တယ်။ နှစ်ဦး နှစ်ဘက် ပြန်လည်ပေါင်းသင်း နိုင်ဖို့ရန် လမ်းကြောင်းရှာပေးရမှာဖြစ်ပါတယ်။ ခွဲဖို့ ဆိုတဲ့ ခေါင်းစဉ်နဲ့လုံးဝမလာပါနဲ့။

ဒီမှာ တစ်ခုသိရမှာက အရေးကိစ္စအားလုံး ဖြေရှင်းမှ ပြီးတယ်။ သို့သော် အိမ် ထောင်ရေး ကြားလူမပါနဲ့ မဖြေရှင်းဘဲ ပြီးတတ်တယ်။ အချိန်အခိုက်အတန့် လေးပေးလိုက်ပါ။ အဲ့ဒီဇနီးမောင်နှံ နှစ်ဦးပြန်လည်ပေါင်းသင်းလာကြမယ်။ ကြား လူသာပါလာရင် မဖြစ်သင့်တာတွေ ဖြစ်လာတတ်တယ်။ ဒါကြောင့် ကြားကနေ ဝင်ရောက်ဖြေရှင်းပေးတဲ့ မိဘတွေအထူးသတိထားရမယ်။ ပေါင်းသင်းဖို့ဘက်ကို ဦးတည်ပါ။ ခွဲခွါပေးဖို့ကို လုံးဝမစဉ်းစားပါနဲ့။ ဒါဟာအရေးကြီး ဆုံးဖြစ်တယ်။ သား သမီးတွေ အဆင်မပြေဖြစ်နေတာကို သိပ်ပြီးတော့ ဆန္ဒမစောပါနဲ့။ အချိန်အနည်း ငယ် စောင့်ဆိုင်းလိုက်ပါ။ အချိန်က ကုစားပေးသွားပါလိမ့်မယ်။ မိဘတွေ ညှိနှိုင်း တဲ့နေရာမှာ အများကြီးလိုက်လျောရတယ်။ တစ်ဘက်က တောင်းဆိုချက်တွေကို အခြားတစ်ဘက်က လိုက်လျောရသလို အခြားတစ်ဘက်ရဲ့ လိုအပ်ချက်တွေကို တစ်ဘက်က ပြန်လည်ဖြည့်ဆည်းပေးရတယ်။ ဒါတွေ အများကြီးလုပ်ရပါတယ်။ သို့သော်လည်း ကြားလူမပါဘဲ အချိန်နဲ့ကုစားသွားမယ်ဆို ဘာတစ်ခုမျှ ဖြည့် ဆည်းပေးစရာမလိုဘဲ အလိုလိုသင့်မြတ်သွားကြပါတယ်။ ဒါကိုနားလည်ဖို့လိုပါ တယ်။ သိပ်ပြီးဆန္ဒမစောပါနဲ့။ သာသနာက ကျွန်တော်တို့ကို နှစ်လိုဖွယ်ရာ လမ်း ညွှန်မှုပေးထားတယ်။ အဲ့ဒီအပေါ်မှာ လျှောက်တတ်ဖို့ပဲလိုတယ်။

အဲ့ဒီမှာ ကျွန်တော်တို့ ဘာလိုအပ်လဲဆိုရင် ကျွန်တော်တို့ရဲ့ ဒေါသကို ထိန်းချုပ်ရမယ်။ တမန်တော်မြတ်ﷺအမိန့်ရှိတယ်။ မည်သူမဆို မိမိဒေါသကို ထိန်းချုပ်လိုက်မယ်ဆိုရင် ကေယာမသ်နေ့မှာ အဲ့ဒီလူရဲ့အပေါ် အလ္လာဟ်အရှင်ကလည်း မိမိရဲ့ဒေါသကို ထိန်းချုပ်တော်မူမှာဖြစ်တယ်။ ကျွန်တော်က မိမိဒေါသကို ဇနီးသည်ရဲ့အပေါ် မဖြစ်ပေါ်ရန် ထိန်းချုပ်လိုက်ခြင်းဖြင့် ကျွန်တော့်အပေါ်မှာ အလ္လာဟ်အရှင်မြတ်က မိမိဒေါသကို ထိန်းချုပ်ပေးမှာဖြစ်တယ်။ နည်းတဲ့ အကျိုးကုသိုလ်လား။ ဒါကို တန်ဖိုးထားရမှာဖြစ်တယ်။ နောက်ဆုံးအဆင့် ဇနီးသည်မှာ ကောင်းတာဆိုလို့ ဘာမျှမရှိဘူး မသွားတော့တဲ့နာရီလိုပဲ တစ်ရက်မှာနှစ်ခါပဲ အချိန်မှန်ပြနေတယ်ဆိုတောင်မှ အဲ့ဒီအကောင်းလေးကို တန်ဖိုးထားပြီး မိမိဇနီးသည်ကို လမ်းမခွဲလိုက်ပါနဲ့။ အလ္လာဟ်ပေးမယ့် ဆဝါးဗ်ဘယ်လောက်ကြီးမားလဲ၊ အလ္လာဟ်သာလျှင်အသိဆုံးဖြစ်တယ်။

ပညာရှင်များအမိန့်ရှိပါတယ်။ ကျွန်တော်တို့ ကိုင်တွယ်နေတဲ့ခါး အမြဲတန်းထက်ချင်မှ ထက်ပါလိမ့်မယ်။ သို့သော်လည်း ဇနီးသည်ရဲ့ နတ်လျှာကတော့ အမြဲတန်းသွက်နေမှာဖြစ်တယ်။ ကြာလေသွက်လေပဲဖြစ်တယ်။ သူ့ပါးစပ်လေးကို ကျွန်တော်တို့က အပြစ်ယူပြီးတော့ ကိုယ်ထိလက်ရောက်တော့ ဘာမှမလုပ်လိုက်ပါနဲ့။

ဟာဇရသ် မောင်လာနာ အရှ်ရဖ် အလီ ထာနဝီ သခင် ဖြစ်ရပ်မှန်တစ်ခုကို ပြောပြခဲ့တယ်။ အလွန်ဆင်းရဲတဲ့လင်မယားနှစ်ဦး၊ ဆင်းဆင်းရဲရဲနဲ့ လုပ်ကိုင်ရှာဖွေနေရတယ်။ တစ်နေ့တော့ စုဆောင်းထားတဲ့ ငွေကြေးလေးနဲ့ ကြက်သားဟင်းချက်စားကြတယ်။ ဇနီးသည်ကလည်း အကောင်းဆုံးဖြစ်အောင် ချက်တယ်။ သို့သော်လည်း စေတနာများပြီး ဆားကို နစ်ကြိမ်ထည့်မိတယ်။ အမျိုးသားက အလုပ်က ပင်ပင်ပန်းပန်းပြန်လာပြီး ဘဝမှာ တစ်ခါသာစားရမယ့် ကြက်သားဟင်းလေးကိုမြိန်ရည်ရှက်ရည်နဲ့ စားမယ်လို့ ထိုင်လိုက်တယ်။ ဇနီးသည်က အနားမှာလာမထိုင်ရဲဘူး။ အရင်ဆိုအနားထိုင်ပြီး ဖွယ်ဖွယ်ရာရာ ခူးခပ်ထည့်ပေးတယ်။ အခုသူအပြစ်လုပ်ထားတော့ ကြောက်ပြီး ထောင့်တစ်နေရာမှာ ထိုင်နေတယ်။ အမျိုးသားက ကြက်သားဟင်းကိုထည့်ပြီး ပထမဆုံးထမင်းလုပ်ကို စားတဲ့အချိန်မှာပဲ ငံကျိုနေတာကို ခံစားလိုက်ရတယ်။ အင်မတန် ခံစားလိုက်ရတယ်။ ငါရဲ့ တစ်သက်မှာ တစ်ခါစား ရတဲ့ဟင်းလေးဟာ ပျက်သွားခဲ့ပြီပါလားဆိုပြီး ဝမ်းနည်းသွားခဲ့တယ်။

ဒေါသလည်း အရမ်းဖြစ်သွားတယ်။ သို့သော်လည်း ချက်ချင်းသူဟာ စိတ်ကို ထိန်းလိုက်တယ်။

ပြီးတော့ တွေးကြည့်တယ်။ အော်_ငါ့ဇနီးနေရာမှာ ငါ့သမီးဖြစ်နေပြီး ငါ့နေရာမှာ ငါ့သမက် ဖြစ်နေမယ်ဆိုရင် ငါ့သမီးကို ပြစ်တင်ပြောဆို ဒေါသဖြစ်တာမျိုး ငါခံနိုင်ရည်ရှိပါမလားလို့ တွေးကြည့်လိုက်တယ်။ ပြီးတော့ စိတ်ကိုလျော့ ချလိုက်ပြီး အလ္လာဟ်ဆီမှာ တိုင်တည်ပြီးပြောတယ်။ အို_အရှင် ကျွန်တော်မျိုးဟာ အလ္လာဟ် အရှင်မြတ်အတွက် ကျွန်တော့်ရဲ့ဇနီးကို ခွင့်လွှတ်လိုက်ပါပြီ။ အလ္လာဟ်အရှင် သူမကိုလည်း ခွင့်လွှတ်ပေးတော်မူပါလို့ ဒိုအာတောင်းလိုက်တယ်။ ပြီးတော့ ဇနီးသည်ကို ဘာမျှအပြစ်မတင်ဘဲ ထမင်းဝိုင်းကနေ ထသွားလိုက်တယ်။

ဟာဇရသ် မောင်လာနာ အရ်ှရဖ် အလီ ထာနဝီ သခင် ပြောပြတယ်။ အဲ့ဒီလူ ကွယ်လွန်သွားတော့ အဲ့ဒီခေတ်ရဲ့ သူတော်စင်တစ်ပါးဟာ အိပ်မက်ထဲမှာ ဒီပုဂ္ဂိုလ်ကိုတွေ့ရတယ်။ အခြေအနေဘယ်လိုလဲ လို့မေးတော့ သူကဖြေတယ်။ ကျွန်တော်မှာ ဂိုနာဟ်တွေအများကြီး ရှိတယ်ဆိုတာ အလ္လာဟ်အရှင်မြတ်ကပြတယ်။ သို့သော်လည်း အလ္လာဟ်အရှင်မြတ်က အမိန့်ရှိတယ် မင်းဟာမင်းရဲ့ ဇနီးသည်ကို ငါ့ရဲ့ဗန္ဒီကျေးကျွန်မဖြစ်တယ်ဆိုပြီး မင်းဟာခွင့်လွှတ် လိုက်တယ်ဆိုရင် ငါကလည်း မင်းကို ငါ့ဗန္ဒာကျေးကျွန်ဖြစ်လို့ မင်းကိုခွင့်လွှတ်လိုက်ပြီလို့ အမိန့်ရှိတယ်။

ဒါဟာ တစ်ဘဝထဲအတွက် အကျိုးရှိတာမဟုတ်ပါဘူး။ လောကမှာတင်မက လောကုတ္တရာမှာလည်း အကျိုးခံစားရမှာဖြစ်တယ်။ လောကမှာနစ်နာရင် နစ်နာသွားပါစေ နောင်ခေရသ်မှာ အပြစ်တွေခွင့်လွှတ်ဖို့ရာ နည်းလမ်းကောင်း ဖြစ်တယ်ဆိုတာကိုသိပြီး ဘယ်တော့မှ ဒေါသကို ရှေ့တမ်းမတင်ပါနဲ့။ ဒီဇနီးသည်ဟာ ငါရဲ့ ဂိုနာဟ်တွေကို ခွင့်လွှတ်ခွင့်ရအောင် ဆောင်ရွက်ပေးမယ့် အကြောင်းခံတစ်ခုဖြစ်တယ်လို့ မှတ်ယူပါ။ ဒါဟာ သိပ်ကောင်းတဲ့ အမူအကျင့်တစ်ခုပါ။ ဒီထုံးကိုနလုံး မူထားပါ။ အင်ရှာအလ္လာဟ် ဘဝနှစ်ခုစလုံး သာယာသွားပါလိမ့်မယ်။

ဒါကြောင့် အမျိုးသမီးဟာ ဘယ်လောက်ပဲ ဆိုးသွမ်းနေပါစေ၊ ခင်ပွန်းသည်ဟာ အစ္စလာမ့်တရားတော်နဲ့အညီ သူ့အပေါ်မှာ ကျင့်မူဆက်ဆံသွားမယ်ဆိုရင် အဲ့ဒီ ဇနီးသည်ဟာ လောကမှာတင် ဂျန္နသ်ဥယျာဉ်တစ်ခုကို ပိုင်ဆိုင်ထားရသလို ခံစားရမယ်။

အလ္လာဟ်အရှင်မြတ်က ကျွန်တော်တို့ကိုပေးထားတဲ့သက်တမ်းဟာ အင်မတန် တန်ဖိုးကြီးမားလှပါတယ်။ အဲ့ဒီသက်တမ်းမှာ ကိုယ့်ရဲ့စိတ်ဆန္ဒကို ချိုးနှိမ်ပြီး ခင်ပွန်းနဲ့ဇနီးဟာ တစ်ဦးနဲ့တစ်ဦး နားလည်ပေး ခွင့်လွှတ်နိုင်တယ်၊ ဗန္ဒာအချင်းချင်းမှာ သည်းခံစိတ်ထားကာ ခွင့်လွှတ်ပေးမယ်ဆိုရင် ဖန်ဆင်းရှင်ဖြစ်တဲ့ အလ္လာဟ်အရှင်မြတ်ကလည်း ဖန်ဆင်းခံဖြစ်တဲ့ ဗန္ဒာတွေရဲ့အပေါ်မှာ အဆမတန်ပိုပြီးတော့ ခွင့်လွှတ်ပေးနိုင်တော်မူသောအရှင်ဖြစ်ပါတယ်။ ဒါကြောင့် အိမ်ထောင်ရေးမှာ တစ်ယောက်နဲ့တစ်ယောက် နားလည်ခွင့်လွှတ်ပေးနိုင်မယ်ဆိုရင် ခုနကပြောတဲ့ အဆင့်သုံးဆင့်ကို ရောက်မှာတောင်မဟုတ်ပါဘူး။ ကုသခြင်းထက် ကာကွယ်တဲ့နည်းက ပိုပြီးတော့ မွန်မြတ်ကောင်းမွန်ပါတယ်။ အလ္လာဟ်အရှင် ကျွန်တော်တို့တတွေ အားလုံးကို ကုသခြင်းထက် ကာကွယ်တဲ့နည်းလမ်းကို ကျင့်သုံးနိုင်စွမ်း ချီးမြှင့်ပေးသနားတော်မူပါစေ။ အာမီးန်

မန္တလေးမြို့၊
စကြံ့မြောက်ဗလီ။

၄၊ ၁၂၊ ၂၀၁၈

# ကောက်နုတ်ချက် ရွေးစကားများ

လူသားတွေလုပ်ထားတဲ့ လူ့အခွင့်အရေးထက် အစ္စလာမ်ကပြဋ္ဌာန်းထားတဲ့ လူအခွင့်အရေးကအများကြီးမြင့်ပါတယ်။ လူသားတွေပြဋ္ဌာန်းထားတဲ့ လူ့အခွင့်အရေးဆုံးနေတဲ့နေရာကနေ အစ္စလာမ့်လူအခွင့်အရေးက စတာပဲဖြစ်ပါတယ်။

ဒွန္နယာဆိုတာဟာ အကောင်း၊ အဆိုးတွေ ပေါင်းစည်းထားတဲ့ နေရာတစ်ခုဖြစ်ပါတယ်။ အကောင်းတွေပဲရှိတာဟာ ဂျန္နသ်ဖြစ်တယ်။ အဆိုးတွေပဲရှိတာဟာ ဂျဟန္နမ်ဖြစ်တယ်။ အကောင်း၊ အဆိုး ဒွန်တွဲနေတာဟာ လောကီဒွန္နယာပဲဖြစ်တယ်။ အဲ့တော့ အကောင်းနဲ့အဆိုး အများကြီးတွေ့ရမှာဖြစ်တယ်။ ကောင်းတာတွေလည်းအများကြီးတွေ့ရမယ်။ ဆိုးတာတွေလည်း အများကြီးတွေ့ရမယ်။ မတူကွဲပြားတဲ့အရာနှစ်ခုကို ပေါင်းစည်းထားတာဖြစ်တယ်။ ဘယ်လိုပဲကွဲပြားပါစေ ဒါတွေအားလုံးကို ညှိယူရမယ်။ ဒီလိုညှိယူနိုင်မှလည်းပဲ အိမ်ထောင်ရေးဟာ ပိုပြီးတော့ ခိုင်မြဲလာမှာဖြစ်တယ်။

ဒီဇနီးသည်နဲ့ပေါင်းရတာ အဆင်မပြေပါဘူးဆိုပြီး သူများလက်ထဲ လွှဲမပေးနဲ့။ သက်ဆုံးတိုင်အောင်ပေါင်းပါ။ ကိုယ့်ဇနီးသည်ကို သက်ဆုံးတိုင်အောင်ပေါင်းပါ။ အပျော်ပေါင်းတာမဟုတ်ဘူး။ ဒါဟာ အာခေရသ်ခရီးမှာ အထောက်အကူဖြစ်ဖို့ ဂိုနာဟ်တွေကကင်းဖို့ ပေါင်းသင်းခြင်းဖြစ်တယ်။ မိမိဇနီးသည်ကို ရိုးမြေကျ သက်ဆုံးတိုင်ပေါင်းရမယ်။ ကိုယ်မပေါင်းချင်လို့စွန့်လွှတ်လိုက်ပြီးသူများကို ဒုက္ခရောက်စေတော့ဆိုတဲ့ စိတ်ဓာတ်မျိုး ကျွန်တော်တို့မှာ မရှိရဘူး။

တမန်တော်မြတ်ﷺအမိန့်ရှိပါတယ်။ သဘောထားကောင်းတဲ့ အမျိုးသားတွေကို အမျိုးသမီးတွေက အနိုင်ယူတတ်ကြတယ်။ စိတ်ဓာတ်ကြမ်းတဲ့အမျိုးသားတွေက ကျတော့ အမျိုးသမီးတွေကို အနိုင်ယူတတ်ကြတယ်။ ဒါကတော့ သဘာဝတရားပါ။ အဲ့ဒီသဘာဝတရားမှာ ကိုယ်တော်ဟာ ငါဘာဖြစ်ချင်တယ်ဆိုတာကိုလည်း အမိန့်ရှိသွားတယ်။ တမန်တော်မြတ်ﷺ အမိန့်ရှိတယ်။ ငါကတော့ မိန်းမတွေအနိုင် ကျင့်ခံရတဲ့ လူ့သဘောကောင်းကြီးပဲ ဖြစ်ချင်တယ်။ အမျိုးသမီးကိုနိုင်တဲ့ မယားနိုင်မင်းတော့ ငါအဖြစ်မခံနိုင်ဘူးတဲ့။ ငါ့ကိုနိုင်တာ ငါ့ဇနီးသည်ဖြစ်တယ် နိုင်ချင်သလောက်နိုင်ပါစေလို့ ခံယူနိုင်ရမယ်။

ကိုယ့်ဇနီးသည်ဆီက ခေသ်မသ်ဘယ်လောက်နည်းနည်းလေးရရ ဒါကို အများကြီးလို့ထင်ရမယ်။ အဲဒီအတိုင်းပဲ ကိုယ့်ခင်ပွန်းဆီက ဘယ်လောက် မျှော်လင့်ချက်ထားထား ပေးတဲ့နည်းနည်းလေးကို အများကြီးလို့မှတ်ယူရမယ်။ နှစ်ဦးနှစ်ဘက် အပြန်အလှန် ဒီလိုနားလည်သွားမယ်ဆိုရင် အဲ့ဒီအိမ်ထောင်ရေးဟာ သာယာတဲ့သီရိဂေဟာတစ်ခု လောကမှာတင် ဖန်တီးလို့ရသွားနိုင်ပါလိမ့်မယ်။

အချစ်ဆိုတာက ကျွန်တော်တို့အိမ်ထောင်ရေးရဲ့ အဓိကမဏ္ဍိုင်ဖြစ်တယ်။ အိမ်ကိုလက်နဲ့တည်ဆောက်လို့ရပေမဲ့လည်း အိမ်ထောင်ရေးကို နှလုံးသားနဲ့ တည်ဆောက်ရတယ်။

တကယ်တမ်းသာ တစ်ယောက်ကိုတစ်ယောက် မေတ္တာတရားတွေရှိကြမယ် ဆိုလို့ရှိရင် သက်တမ်းကုန်လို့ အလ္လာဟ်အရှင် ရုတ်သိမ်းသွားရင်လည်း အချစ်ကတော့ မပြောင်းလဲဘဲ ကျန်ရှိနေမှာဖြစ်တယ်။

သာသနာကို ပြင်ဖို့မကြိုးစားပါနဲ့။ သာသနာက လူလုပ်ထားတာ မဟုတ်ဘူး။ သာသနာက အလ္လာဟ်အရှင်မြတ်ပြဋ္ဌာန်းထားတာဖြစ်တယ်။

လမ်းမခွဲရဖို့ဆိုတာ ကိုယ်ကလည်း လျော့သင့်တာ လျော့ပါ၊ သူကလည်း ကြိုးစားသင့်တာ ကြိုးစားပါ။ သူရောကိုယ်ရော ဆုံမှတ်လေး တစ်ခုမှာ နားလည်းမှုအပြည့်နဲ့ ဆုံစည်းနိုင်မယ်ဆိုရင် ဘဝတစ်ခုကိုပျော်ပျော်ကြီး တည်ဆောက်နိုင်မှာဖြစ်ပါတယ်။ အမိကက မတူညီတာနှစ်ခုကို ပေါင်းစပ်တဲ့နေရာမှာ ဆုံမှတ်တစ်ခုကိုထားပြီး အဲ့ဒီ ဆုံမှတ်အတိုင်း ဘဝတစ်ခုတည်ဆောက်ကြမယ်ဆိုရင် သာယာတဲ့အိမ်ထောင်ရေး ဖြစ်လာမှာပဲဖြစ်တယ်။

အမျိုးသမီးဟာ ဘယ်လောက်ပဲ ဆိုးသွမ်းနေပါစေ၊ ခင်ပွန်းသည်ဟာ အစ္စလာမ့် တရားတော်နဲ့အညီ သူ့အပေါ်မှာ ကျင့်မူဆက်ဆံသွားမယ်ဆိုရင် အဲ့ဒီဇနီးသည်ဟာ လောကမှာတင် ဂျန္နသ်ဥယျာဉ်တစ်ခုကို ပိုင်ဆိုင်ထားရသလို ခံစားရမယ်။

သွလားက်ဆိုတဲ့စကားဟာ ဝေါဟာရအဖြစ်နဲ့တောင်
ကျွန်ုပ်တို့ သိမထားဘူးဆိုရင် ပိုတောင်ကောင်းပါတယ်။

